သို့သော် ဤပုံစံအတိုင်း ရက်ကလေး တော်တော်ညောင်းလာလျှင်ကား ကျွန်ုပ်တို့အဖို့ စိတ်အနှောင့်အယှက် ဖြစ်လာကြရပေတော့သည်။

သူတို့တစ်တွေ ရောက်လာကြခြင်းမှာ အချိန်အခါနှင့် သတ်သတ်မှတ်မှတ်မှတ် မဟုတ်ပေ။ သွားလာဝင်ထွက်၍ ကောင်းသော နံနက်ခင်းနှင့် ညနေချမ်းတို့မှာသာ မဟုတ်၊ နေ့လယ်ကြောင်တောင်ကြီးမှာလည်း ရောက်လာတတ်ကြ၏။ တစ်ယောက် စကား တစ်ယောက်နားမှာ ကြားကြရ၍ သုံးလေးယောက်မျှ စိတ်တူသဘောတူ ဖြစ်လာကြလျှင် ရောက်လာကြသည်သာ ဖြစ်၏။

သူတို့အဖို့မှာတော့ တစ်သုတ်ပြီး တစ်သုတ် အလဲအလှယ်နှင့်မို့ အကြောင်း ထူးလိမ့်မည် မဟုတ်ပေ။ ဝင်လာမစဲ တသဲသဲ ရောက်လာကြသူများ၏ အဖူးအမြော်ခံကြရသော ကျွန်ုပ်တို့မှာကား တစ်နေ့ထက် တစ်နေ့ ဝန်တာ လေးလှပါ၏။ လာလာသမျှ ပုဂ္ဂိုလ်များ ကိုယ်ရောစိတ်ပါ ချမ်းသာကြပါစေ၊ ကျေနပ်မှု ရှိပါစေတော့ဟု ဧည့်ခံစကား ပြောကြရာတွင် တရားဓာတ် ကိန်းသူများ ပါလျှင် တော်ပါသေး၏။ သူတို့ကို တရားစကား တစ်လုံးစ နှစ်လုံးစ ပြောခွင့်ရ၍ စိတ်ဖြေစရာ ရှိပါသေး၏။ တရားဓာတ် ကိန်းဝပ်သူပါမလာသော နေ့များမှာကား အာပူလှ၍ ခါးညောင်းခံရခြင်းသာ အဖတ်တင်ပေသည်။

ခါတိုင်းအချိန်များ၌ လူသံ သူသံ ကင်းဆိတ်မှုကို နှစ်ခြိုက်တော်မူခဲ့သော ဘုရားရှင်သည် ဤဥယျာဉ်တော်မှာကား ရေငုံနှုတ်ပိတ်နေတော်မူဘိ၏။ ဝင်လာ ရောက်လာသူတို့ကိုလည်း မတားမြစ်။ ဧည့်ခံသော ရဟန်းတို့ကိုလည်း အပြစ်မဆို။ ကိုယ်တော်မြတ်၏ ထူးခြားသော ဤအပြုအမူသည် ထူးခြားသော အကြောင်းတစ်ခု ရှိ၍ပင် ဖြစ်ပေသည်။ ဤသို့သော အကြောင်းထူးကို ငဲ့၍ပင် ကျွန်ုပ်တို့ကလည်း ပရိသတ်တို့၏ ဒဏ်ကို စိတ်ရှည်လက်ရှည် ခံယူနေကြရခြင်း ဖြစ်ပေသည်။

ဆူသံပူသံ သည်းညည်းခံနေရခြင်း အကြောင်းသည်ကား ထူးလည်း ထူးခြား ပါပေ၏။ အရေးပါ အရာရောက်သော ကိစ္စကြီးတစ်ခုလည်း ဖြစ်ပါပေ၏။ကျွန်ုပ်တို့ ရဟန်းလောကတွင် ပညာအရာ ဂုဏ်ထူးဆောင်အရှင်မဟာသာရိပုတ္တရာ ရှိနေ သကဲ့သို့ ရဟန်းမလောကတွင် မရှိလာသေးပါ။ မယ်တော်ကြီးဂေါတမီအမှူးရှိ သော ရဟန်းမလောက၏ လိုအပ်ချက်ကို ယခုကိစ္စများက ဖြည့်ဆည်းပေးကြရန် ရှိပေသည်။ သို့ဆိုလျှင် ရဟန်းမလောက၏ ဂုဏ်ထူးဆောင်လောင်းလျာကား မည်သူနည်း။ သူက ယခု ဘယ်မှာ ဘာလုပ်၍နေပါသနည်း။

သူသည်ကား ကျောင်းဒါယကာကြီး၏ မိဖုရားတစ်ဦးဖြစ်ပါလျက် ယခုထိ ကျွန်ုပ်တို့ ဝေဠုဝန်သို့ မရောက်ခဲ့သေးပါ။ ဘုရားရှင်နှင့်အတူ ကျွန်ုပ်တို့တစ်တွေ နန်းတော်ရောက်သောအခါမှာလည်း သူကဖြင့် မျက်နှာပြဖော်မျှ မရပါ။ ကျောင်း ဒါယကာဖြစ်သော မင်းကြီး ဗိမ္ဗိသာရနှင့် မိဖုရားခေါင်ကြီး ဝေဒေဟီတို့ကသာ အရန်သင့် ဆွမ်းလုပ်ကျွေးခဲ့ကြပေသည်။

ဤကဲ့သို့ သူ့ကိုယ်သူ ကိုယ်ရောင်ဖျောက်၍ နေနိုင်ခဲ့သော်လည်း သူ့သတင်းများကိုကား လုံခြုံအောင် ထိန်းချုပ်ထား၍ မရနိုင်ပါ။ လူ့သတင်းမို့ လူချင်းဆောင်ရာ ပါခဲ့သည်သာ ဖြစ်ပေသည်။

သူတို့ အသိုက်အဝန်း၌ ကျွန်ုပ်တို့ နောင်တော်ဘုရားသည် အလှအပကို စက်ဆုပ်ရွံရှာသူ၊ အလှအပကိုဖျက်ဆီးချေမှုန်းတတ်သူ၊ အပြစ်ဟူ၍ မြူမျှရှာမရသော ကိုယ်ခန္ဓာကိုပင်လျှင် အပြစ်အနာအဆာ ရှာပြတတ်သူဖြစ်၍ နေ၏။ သူမတူသော အလှရတနာ ယသော်ဓရာကိုပင်လျှင် ပစ်ပစ်ခါခါ စွန့်ခွာ၍ လာခဲ့ခြင်းက ဤသို့သော ကောက်ချက်ကို အထောက်အကူပြု၍ ထား၏။ ထို့ကြောင့် ဤရွှေ့ ဤမျှ နှလုံးသားခြောက်သွေ့နေသော ပုဂ္ဂိုလ်၏ ရှေ့မှောက်တွင် သူ ချစ်မြတ်နိုးလှသော အလှဂုဏ်သိန် ညှိုးမှိန်သွားမည် စိုးရှာပါသတဲ့။ ထို့ကြောင့်ပင် တမင်ပုန်း၍ နေရှာပါသတဲ့။

ဟုတ်တော့လည်း ဟုတ်ပါ၏။ လောကီ မျက်စိနှင့်သာ ကြည့်ပါက အဖြစ်သည်းမှုကို အပြစ်ဆိုရန် မရှိပါချေ။ မိန်းမချော မိန်းမလှတို့ ထွက်ပေါ်ရာ မဒ္ဒရာဇ်တိုင်း၊ သာဂလမြို့တော်၏ အလှရတနာတစ်ဆူဖြစ်ကြောင်းကိုသာ သိကြလျှင် သည်ကိစ္စအတွက် ခွင့်လွှတ်နိုင်သူက များပါလိမ့်မည်။

လှဂုဏ်ထူးရှင် သည်မိန်းကလေးသည် မွေးဖွားလာသည့် အချိန်ကပင် ကံထူးခဲ့သူ ဖြစ်ပါ၏။ အမိဝမ်းတွင်းမှာ ခိုနေစဉ်က သူတို့နိုင်ငံသည် ကပ်ဘေးကြီးများ၏ အခြိမ်းအခြောက်ကို ခံနေခဲ့ရ၏။ သူ မွေးဖွားလာချိန်မှာကား ထိုကပ်ဘေးကြီးတို့ ငြိမ်းအေးသွားကြပေသည်။ ဘေးဘယာတို့ ဝေးကွာသွားသော ဤအကြောင်းနိမိတ်သည်ပင် ဤမိန်းကလေး၏ အမည်နာမ ဖြစ်လာရပေသည်။

လှလွန်းဆွေ မယ်ခေမာသည် ထိုအလှဂုဏ်ကို အကြောင်းပြု၍ပင် မာန်မာနကလည်း ကြီးလှသည် ဟူပါ၏။ ထိုမာန်မာနကို သာဂလမြို့တော်မှာတုန်းက ခမည်းတော် မဒ္ဒရာဇ်မင်းကြီးက မြေတောင်မြှောက်၍ ပေးခဲ့၏။ သမီးကညာရတနာကို ဘာမဆို အလိုလိုက်၍ အကြိုက်ဆောင်ခဲ့ကြ၏။ ယခု ဗိမ္ဗိသာရမင်းကြီး၏ နန်းတော်သို့ ရောက်လာပြန်တော့လည်း ရတနာရှိရာ ရတနာစုသည်သာ ဖြစ်၏။

ဗိမ္ဗိသာရ မင်းကြီးတွင် သက်တူရွယ်တူ ဝေဒေဟီ မိဖုရားကြီးရှိ၏။ သူကား နာမည်ကျော် အဇာတသတ်မင်းသား၏ မယ်တော်ဖြစ်ပေသည်။ မထင်ရှားသော အခြားမိဖုရားတို့လည်း ရှိကြသည်ပင်။ သို့ရာတွင် မင်းဧကရာဇ်တို့မည်သည် မိမိ၏ ဘုန်းသမ္ဘာတော်ကို လေးမြတ်ကော်ရော် ပူဇော်သောအားဖြင့် ဆက်သလာသော ရတနာမျိုးစုံတို့ကို ပစ်ပယ်ရိုးထုံးစံ မရှိပေ။ မယ်ခေမာဟု အမည်တွင်သော ဤရတနာလေးသည်ကား သက်မဲ့ရတနာမျိုးတို့ထက် အဆတစ်ရာမကသာအောင် အဖိုးထိုက်တန်၍ နေပေသည်။ အဖိုးထိုက်တန်သော ရတနာမို့ ဘုရင်ကြီးက ချစ်မြတ်နိုးလှသည် ဟူပါ၏။

အလှုရတနာတစ်ဆူကို လက်ရပိုင်ပိုင် သိမ်းပိုက်နိုင်သဖြင့် ကျွန်ုပ်တို့ ကျောင်းဒကာကြီးအဖို့ ကံကောင်းသည်ဟု ဆိုနိုင်ပါသည်။ သို့ရာတွင် သူ့ကံမှာ တစ်ခုခုချို့တဲ့နေဟန် တူပါသည်။ သူကိုယ်တိုင်က ရတနာသုံးပါးကို မတုန်မလှုပ် သက်ဝင်ယုံကြည်ပြီးသော ကျောင်းဒါယကာကြီး။ ဘုရားရှင် ကျေးဇူးတော်ဖြင့် အေးရာငြိမ်းရာ တရားကြီးကိုပင် ကိုယ်တိုင်ကိုယ်ကြပ် ခံစားရပြီးသူ။ သို့ပါလျက် အလှအာရုံ ခံမင်လာသည်နှင့် တစ်ပြိုင်နက် သူ့ခမျာ အခက်ကြုံရရှာတော့သည်။

သူသည် ရတနာသုံးပါးကို ကြည်ညိုသဖြင့် ဘုရားကျောင်းတော်သို့ မကြာခဏ သွားလိုသည်။ ထိုမှတစ်ဖန် မိဖုရားကလေး မယ်ခေမာကို ချစ်မြတ်နိုးလှသဖြင့် သူကလေးနှင့် အတူတကွ သွားလို၏။ ကျယ်ဝန်းလှသော မဂဓတိုင်းကြီး တစ်ခုလုံးကို အလိုပြည့်ခဲ့သော ဧကရာဇ်ဘုရင်ကြီးသည် သည်အလိုနှစ်ခုအနက် တစ်ခုကိုသာ ဖြည့်ဆည်းခွင့် ရပေသည်။

အလိုနှစ်ခုလုံးကို စိတ်တိုင်းကျ ဖြည့်စွက်နိုင်ရန်ကား မင်းအာဏာကို သုံးရပေတော့မည်။ မင်းဧကရာဇ်တို့၏ တာဝန်အရ ပြင်းထန်လှသော အမိန့်အာဏာများကို ပေးခဲ့ရဖူးသော်လည်း သည်မိဖုရားလေးကိုကား ဤသို့သော အမိန့်မျိုးကို မပေးရက်ပေ။ ဤသို့သော အာဏာမျိုးကို မသုံးရက်ပေ။ သူ့စိတ်သဘောနှင့် ဆန့်ကျင်သော အမိန့်သံ နားခံလိုက်ရလျှင် နေထိပန်းသို့ ညှိုးနွမ်းသွားရှာမည့် ဖြစ်အင်ကို သူမရှုရက် မမြင်ရက်ပေ။ သို့ဖြစ်၍ သူ့အလိုဆန္ဒလည်း ပြည့်ဝစေ၊ အလှပန်းကလေးလည်း လန်းဆန်းမြဲ လန်းဆန်းစေရန် ရာဇပရိယာယ် ရှောဉာဏ်ခြယ် ရပေတော့သည်။

သူက သူ့တွက်ကိန်းနှင့်သူ ရှောဉာဏ်ခြယ်သည်ကား ဟုတ်ပါ၏။ သူ့ ရည်မှန်းချက် အောင်မြင်သင့်သလောက် အောင်မြင်သည်လည်း မှန်ပါ၏။ သို့သော် လည်း သူ့ပါရမီကို ကူညီ ဖြည့်ဆည်းပေးနေရသော ကျွန်ုပ်တို့ တစ်တွေကား မသက်သာလှပါ။ ဤဝတ္ထုအစမှာ ဖော်ပြခဲ့သော တေးသီချင်းများကို သူကိုယ်တိုင်က တစ်ဖက်လှည့်ဖြင့် စီမံထားခြင်းဖြစ်ရာ ကျောင်းတော်သို့ လူသွားလူလာ မစဲတမ်း ဖြစ်လာရပေသည်။

သူ့ပါရမီကို ကူညီဖြည့်ရသော ကျွန်ုပ်တို့မှာ ဖြည့်ရကျိုးနပ်သည်ဟု ဆိုရပါတော့မည်။ ကိုယ်ခန္ဓာ၏ အလှအပကိုသာ ကိုးကွယ်လာခဲ့သော မိန်းမပျို တစ်ယောက်အား ဆွဲဆောင်နိုင်သောအရာမှာ လှပသော တေးသီချင်းပင် ဖြစ်၏။ လှပသောတေးသီချင်းများက ဆွဲဆောင်ခဲ့သဖြင့် လှလွန်းဆွေ မယ်ခေမာသည် ဝေဠုဝန် ဥယျာဉ်တော်သို့ လှမ်းလင့်လာခဲ့၏။ သစ်ပင်ပန်းမာန်ရေတွင်းရေကန်တို့၏ အလှ၊ တေးသွားအလှကို မလွန်ဆန်နိုင်၍သာ သူလှမ်းလာရ၏။ သည်ဥယျာဉ်တော်မှာ စံပျော်တော်မူသော ဘုရားရှင်ကိုကား သူတွေ့ချင်စိတ် မရှိသေးပေ။

သည်တုန်းက ကျွန်ုပ် အပါအဝင် ရဟန်းအားလုံး မြို့တွင်းမှာ ဆွမ်းခံဝင်ခိုက်ဖြစ်၏။ ခါတိုင်းဆိုလျှင် သံဃာတော်တန်းကြီး၏ ရှေ့ဆုံး၌ အတုမရှိသော အသရေတော်ဖြင့် ဘုရားရှင်ပါ ဆွမ်းခံကြွနေကျ ဖြစ်၏။ ထိုနေ့မှာတော့ ကျွန်ုပ်တို့ချည်းသာ လာခဲ့ကြရ၏။ အကြောင်းထူးတစ်ခုခုရှိလျှင် ဤသို့နေခဲ့ရိုးထုံးစံရှိသည်မို့ သတင်းထူးခြင်း ထူးလျှင် မယ်ခေမာအတွက်သာ ဖြစ်လိမ့်မည်ဟု ခန့်မှန်းထားလိုက်ပါ၏။

ခန့်မှန်းထားသည့်အတိုင်းလည်း ဆွမ်းခံအပြန်မှာ ဖြစ်ကြောင်းကုန်စင်ကို ဤသို့ကြားလိုက်ရပါ၏။ ခါတိုင်းနေ့များမှာလိုပင် ဆွမ်းခံပါသွားလိမ့်မည် ထင်၍ မယ်ခေမာသည် ဘုရားရှင်ကျောင်းတော်သို့ ချဉ်းကပ်လာခဲ့၏။ အရန်သင့်ဖွင့်ထားသော တံခါးမှ ကျောင်းထဲသို့လှမ်းဝင်မိသောအခါတွင်ကား မမျှော်လင့်သော မြင်ကွင်းနှင့် ပက်ပင်းတွေ့လိုက်ရပေတော့သည်။

အလှအပကိုရှုမှန်းသူ၊ အလှအပကို ဖျက်ဆီးချေမှုန်းတတ်သူ၊ ခန္ဓာကိုယ်တစ်ခုလုံးတွင် အပြစ်အနာအဆာကိုမှ မရအရ ရှာပြတတ်သူ၊ ထိုသူ ထိုအရှင်မြတ်၏ ခြေတော်ရင်းတွင် ရင်သပ်ရှုမော အံ့ဩဖွယ်ရာ အလှရတနာလေးတစ်ဆူ ရောက်ရှိနေပါပြီကော။

ဤကမ္ဘာမြေတွင် မိမိကိုယ်သာ အလှဆုံးဟု ထင်တစ်လုံးနှင့် နေခဲ့သော မယ်ခေမာသည် ယခုတော့ သူ့ထက်လှနေသူလေးကို ငေးနေရချေပြီ။ အလှဂုဏ် မျိုးရိုးဂုဏ်တို့ဖြင့် မာနတံခွန် တလူလူလွှင့်ထူခဲ့သော မဒ္ဒရာဇ်တိုင်းသူသည် ယခုတော့ မိမိထက်မာနကြီးသူနှင့် တွေ့လိုက်ရချေပြီ။ မိမိကသာ မိမိထက်လှသူကလေးပါကလားဟု တငေးတမောကြည့်နေရ၏။ ထိုမိန်းကလေးမှာမူကား မဂဓတိုင်းကြီး၏ မိဖုရားတစ်ပါးကို လှည့်၍မျှပင် မကြည့်ပေ။ ဘုရားရှင်ကိုသာ ရိုသေစွာ ယပ်ခတ်လျက်ရှိ၏။

မိမိတစ်သက်တာတွင် တစ်ကြိမ်တစ်ခါမျှ မမြင်ဖူးသော အလှထူးကလေးသည် မယ်ခေမာကြည့်နေသည့် အချိန်မှာပင် တစ်စတစ်စ အလှပျက်၍လာ၏။ အိစက်ညက်ညောသော အသားအရေသည် ပတ်ကြားအက်လျက် ခက်ထရော်ကြမ်းတမ်း၍ လာ၏။ တောက်ပကြည်လင် အရည်ရွှင်နေသော မျက်လုံးများသည် မွဲသိဟောက်ပက် ဖြစ်လာကြ၏။ မိန်းမတို့၏ အလှကျက်သရေဆောင် အသားအသွေးတို့ တွန့်ရှုံ့တွဲကျလာကြ၏။ ရှုမဝသော အပျိုစင်ဘဝမှ တစ်ခဏချင်းဖြင့် ဒုက္ခိတအမယ်အိုကြီး ဖြစ်သွားပေသည်။ ဆံဖြူသွားကျိုး ခါးရိုးမခိုင်သော ကိုယ်ခန္ဓာဖြင့် တုန်တိ တုန်ခိုက် ဖြစ်၍နေပေသည်။

မမျှော်လင့်ဘဲတွေ့လိုက်ရသော အဖြစ်ဆိုးကြီးကြောင့် မယ်ခေမာသည် သည်းထိတ်ရင်ဖိုဖြစ်လာရ၏။ ဟိုစဉ်တုန်းကတော့ အလှသည်ပင် သခင်။ အလှ

သည်ပင် အရှင်။ အလှသည်ပင် ကိုးကွယ်ရာ အားထားရာ။ ယခုတော့ မိမိ အားထားခဲ့သော အလှတောင်ထွတ်ကြီးက ဖြုန်းခနဲ ပြိုကျသွားချေပြီ။ မယ်ခေမာ ဘယ်မှာသွား၍ ခိုကိုးရပါမည်နည်း။

"အိုဘယ့် ခေမာ၊ ရှုစမ်းပါလော့"

သတိသံဝေဂစိတ်ဖြင့် ထိတ်လန့်တကြား ဖြစ်နေသော မယ်ခေမာအား ဘုရားရှင်က နှုတ်ခွန်းတော် သလိုက်ပါချေပြီ။

"အိုဘယ့် ခေမာ၊ စေ့စေ့နာလော့
ပညာမျက်ကန်း၊ လူအနမ်းတို့
ချီးမွမ်းကြရာ၊ ဤခန္ဓာကား
ကျဉ်နာခံကက်၊ နိပ်စက်တတ်စွာ
ဆိုးယုတ်မာ၏။
"နေ့စဉ်ရက်ဆက်၊ ထက်အောက်ဒွါရ
အမာဝမှ၊ ယိုကျဒီးဒီး
ပုပ်နံ့ပြီး၏။
"ငြီးငွေ့ထိုက်စွာ၊ ဤခန္ဓာဝယ်
သာယာဖွယ်တိ၊ ဘိတ်မရှိဟု
သတိထင်လာ၊ တည်ကြည်စွာဖြင့်
ဘာဝနာမှု၊ အသုဘသွင်
စိတ်မှာထင်လော့။
"ထို့ပြင်တစ်မူ၊ သူငါနှစ်ဝ
ကိုယ်ကာယဌ်၊ နှစ်ခြိုက်တွယ်တာ
တဏှာမရှိ၊ မြတ်အသိဖြင့်
စိတ်၏ ငြိမ်းရာ၊ နားခိုပါလော့"

လှလွန်းဆွေ မယ်ခေမာအတွက် ဘုရားရှင် ပေးသနားတော်မူလိုက်သော ဆေးခါးကြီးတစ်ဖုံပင် ဖြစ်ပါ၏။ ခါးသီးလှသော ဆေးတော်ကြီးကိုမှ မယ်ခေမာသည် မလွဲမရှောင်သာ ကြိတ်မှိတ်၍ မျိုရရှာ၏။ မျိုချ၍ ဝမ်းတွင်းသို့ သက်ဆင်းသွားသောအခါမှာကား အဝင်ဆိုးလှသော ဆေးခါးကြီးသည် အမြိုက်သြဇာ နတ်သုဒ္ဓါ ဖြစ်လာခဲ့ပေသည်။

မလိမ္မာ တစ်ခါမိုက်စမြဲဆိုသည့်အတိုင်း ဟိုစဉ်တုန်းကတော့ တသသ အမွှမ်းတင်လာခဲ့ရသော သည်အလှအပကလေးတွေ ညှိုးမှိန်သွားလေမည်လားဟု ဘုရားရှင်ကို ရှောင်နေခဲ့၏။ မရှောင်သာ၍ ယခုလို မျက်နှာချင်းဆိုင် တွေ့လိုက်ရသော အခါမှာမူ သူထင်သည့်အတိုင်း မဟုတ်ချေတကား။ သူ စိုးရိမ်ခဲ့သလို သူ့အလှ

အပတို့သည် စိုးစဉ်းမျှ ညှိုးမှိန်ခြင်း မရှိကြချေတကား။ ဘုရားရှင် တိုက်တွန်းတော်မူသည့်အတိုင်း ထိုတစ်ခဏ ပွားများလိုက်ရသော အသုဘဘာဝနာ၏ ကျေးဇူးဖြင့် ရှေးကထက်ပင် အလှကျက်သရေ တင့်ဖြိုးဝေ၍ လာပေသေး၏။

အသုဘဘာဝနာဆိုသည်မှာ အရှင်အသေ နှစ်ထွေသော ရုပ်ကလာပ်တို့၏ ပျက်စီးယိုယွင်းပုံ အဆင့်ဆင့်ကို စူးစိုက်ကြည့်ကာ မိမိစိတ်တွင် ထိုအသုဘနိမိတ်အာရုံများ ထင်ရှားလာအောင် ပွားများခြင်းပင်ဖြစ်၏။

ဤဘာဝနာသည် သမထ ကမ္မဋ္ဌာန်းလေးဆယ်တွင် အပါအဝင်ဖြစ်သဖြင့် ဝိပဿနာဘက်သို့ မကူးတတ်လျှင် လောကုတ္တရာစခန်းသို့ မတက်လှမ်းနိုင်ပါ။ အပြင်အပ အသုဘမှတစ်ဆင့် မိမိ၏ အတွင်းသဏ္ဍာန်မှ မတင့်တယ် မဖွယ်ရာသော သဘောတို့ကို ဝိပဿနာရှုပါမှ မဂ်အခြေ အဖိုလ်အခြေ ဖြစ်နိုင်ပေသည်။

ဤသို့ဆိုလျှင် မယ်ခေမာ ဝိပဿနာရှုရန် အတွင်းသန္တာန်က အသုဘသဘောများကား အဘယ်နည်း။ အလှဂုဏ်ဝင့်သော မယ်ခေမာအဖို့ အလှပေါ်မှာ မှီတွယ်နေသော မာန်မာနများပင်ဖြစ်ပါလိမ့်မည်။ ငါလှသည်။ ငါတင့်တယ်သည်။ ငါ့ထက်ချောသူ ဘယ်သူမှမရှိဟု ဘယ်လောက်ပင် မာန်မူ၍ နေနေ။ ထိုသို့ မာန်မူနေခြင်းတို့သည်ပင် မတင့်တယ် မဖွယ်ရာသော အသုဘတရားကြီးများ ဖြစ်နေကြပေသည်။

ငါနှင့်ငါသာ နှိုင်းစရာရှိသည်ဟူ၍ တလူလူလွင့်နေသော မာနစေတသိက်ကို ကျွန်ုပ်တို့ သီတင်းသုံးဖော်များက လေတံခွန်နှင့် ပုံခိုင်းတတ်ကြ၏။ တလွင့်လွင့်တက်၍ နေသော လေတံခွန်သည် သူ့အစွမ်းသက်သက်ဖြင့် တက်နိုင်စွမ်းမရှိပါ။ တိုက်ခတ်နေသော လေက မြှောက်ပင့်ပေး၍သာ မြှောက်တက်နေရ၏။ လေကသာ မြှောက်မပေးလျှင် ထိုလေတံခွန်သည် မြေပြင်ပေါ်မှာသာ ကပ်လျက် ချပ်လျက် ရှိနေရပေလိမ့်မည်။

သခ်ာတနယ်မှာ အပါအဝင်ဖြစ်သော မာနစေတသိက်သည်လည်း ထို့အတူသာလျှင် ဖြစ်၏။ တင့်မောဖွယ်ရာ အလှရတနာဟူ၍ မိမိဘာသာ သတ်မှတ်၍ ထားခဲ့သော သဏ္ဍာန်နိမိတ်အရိပ်အရောင်များကို မိမိတို့ကိုယ်တိုင်က အဟုတ်ရှိ၊ တကယ်ရှိ အနေနှင့် ထင်မြင်နေတတ်ကြ၏။ အရိပ်ကို အကောင်ထင်ကာ ပြောင်းပြန်မြင်၍ နေကြသော အကြောင်းတရားတို့က မြှောက်ပင့်ပေးကြသဖြင့် လှဂုဏ်မာန်တို့ မြှောက်တက်၍ နေကြရ၏။ ထိုအကြောင်းတရားတို့ကသာ မြှောက်ပင့်မပေးပါလျှင် သူ့အစွမ်းသက်သက်ဖြင့် မြှောက်တက်မသွားနိုင်ပါ။

မြှောက်တက်လာသော မာန စေတသိက်သည် အကြောင်းတရားတို့၏ ပေါင်းဆုံ ပြုပြင်မှုကြောင့် ဖြစ်၏။ ချုပ်ငြိမ်းနေသော သဘောကား အသခ်တဓာတ်ကြီးဖြစ်၍ အကြောင်းတစ်စုံတစ်ရာ မလိုပါ။ အသခ်တဓာတ်ကြီးကို ဖြစ်ပေါ်စေနိုင်

သော ဇနကဟိတ် ဟူ၍ မရှိပါ။ ချုပ်ငြိမ်းသောသဘောကို ကိုယ်တိုင် ကိုယ်ပိုင် အသိဖြင့် ချဉ်းကပ်ဆိုက်ရောက်စေနိုင်သော သမ္ပာပကဟိတ်မျိုးသာ ရှိပေသည်။

လှလွန်းဆွေ မယ်ခေမာအား ဤသို့သော သမ္ပာပကဟိတ်ဖြင့် နိဗ္ဗာန်အရောက် ချီးမြှောက်တော်မူလိုသည်ဖြစ်၍ ဘုရားရှင်က အနိမိတ္တ ဘာဝနာကို ဟောပြတော်မူပေသည်။

"အိုဘယ့် ခေမာ၊ လွတ်လမ်းရှာလော့။
ဘာဝနာမှု၊ ဉာဏ်ဖြင့်ရှုလော့။
သဘာသဘော၊ တင့်မောဖွယ်ရာ
မပါမရှိ၊ ပကတိကင်းဆိတ်
အနိမိတ်ကို၊ တီဟိတ်ယှဉ်ကာ
ပွားစမ်းပါလော့။
"ငါနှင့်ငါသာ၊ နှိုင်းစရာဟု
အနုသယ၊ မာန်မာနကို
ထကြွစေရန်၊ မကြံမစည်
တည်ကြည်လှစွာ၊ ဘာဝနာဖြင့်
မာနပယ်ခွာ၊ ယဉ်ကျေးပါလော့။
"ယဉ်ကျေးသိမ်မွေ့၊ မြတ်ဓလေ့ဖြင့်
အတွေ့စိတ်တွင်၊ မာနစင်သော်
ဤတွင်ငြိမ်းချမ်း၊ မဂ်ဖိုလ်လမ်းသည်
ဖြောင့်တန်းသေချာပါသတည်း"

ဤသို့သော အမြိုက်ရေကောင်းဖြင့် သွန်းလောင်းလိုက်သည့်အဆုံး၀ယ် မယ်ခေမာသည် ခြေတော်အစုံ ကြာပဒုံ၌ အကြိမ်ကြိမ်ဦးတိုက်၏။ အရိပ်ကို ရန်သူထင်၍ ပုန်းအောင်းနေမိသော အပြစ်များကို ဝန်ချတောင်းပန်၏။ ဤအရေး အခင်းကို မြင်တော်မူပြီးသော ဘုရားရှင်ကား မတောင်းပန်ခင်ကပင် ကျေနပ်ပြီးသား ဖြစ်နေပေသည်။

ထို့ထက်ပို၍ ကျေနပ်စရာကောင်းသော ဖြစ်ရပ်ကိုကား ကျွန်ုပ်ကိုယ်တိုင် မြင်ရပါ၏။ မဂ်လေးတန် ဖိုလ်လေးဆင့်ဖြင့် အမြင့်ဆုံးသော ဉာဏ်အမြင်ကို ရရှိထားပြီးဖြစ်သော မယ်ခေမာသည် ဘယက်တန်ဆာ ဒွါဒရာများ ဝတ်ဆင်လျက် ကပင် သံဃာစာရင်း၀င် ဖြစ်နေပေပြီ။ ဤလိုအမြင့်ဆုံးသော ဉာဏ်အဆင့်သို့ ဆိုက်ရောက်ပြီးသူများသည် အတွင်းစိတ်ဓာတ်နှင့် လိုက်လျောညီထွေသည့် အဝတ် သင်္ကန်း ဆင်မြန်းပါမှ လောက လူ့ဘောင်ကို အကျိုးဆောင်ခွင့် ရကြ၏။

ထို့ကြောင့် မယ်ခေမာသည် ကျောင်းဒါယကာကြီးထံ ခွင့်ပန်ကြားရန် နန်းတော်သို့ ပြန်သွားပေသည်။

ယခင်နှင့်မတူ တမူထူးခြား၍နေသော ဣန္ဒြေသိက္ခာကို မြင်ရရုံနှင့်ပင် ကျောင်းဒါယကာကြီးသည် ရာဇပလ္လင်ပေါ်မှ ဆင်းနေနှင့်၏။ မယ်ခေမာကို ခရီးဦး ကြိုဆိုရင်းက သူ့စိတ်ထဲမှာ ဝမ်းသာရမလိုလို၊ ဝမ်းနည်းရမလိုလို ဖြစ်နေရ၏။

ဟိုယခင်က လှလွန်းဆွေ မယ်ခေမာသည် ဤနန်းဆောင်ထက်တွင် သူ စိတ်တိုင်းကျ ဝတ်စားဆင်ယင် အလှပြင်၍ နေခဲ့၏။ ယခုသော်ကား ဤနန်းတော်ထက်သို့ ဧည့်တစ်ဦးပမာ တစ်လှမ်းချင်း လှမ်း၍ လာနေချေပြီ။

"အရှင်မင်းကြီး၊ လောက ထုံးတမ်းစဉ်လာအရ ပိုင်ဆိုင်လာခဲ့သော အရှင်မင်းကြီးက ခွင့်ပြုပါလျှင် ဘုရားကျွန်မ သာသနာ့ဘောင်မှာ ရဟန်းပြုပါရစေ"

အလှအပအားကိုးဖြင့် နွဲ့ဆိုးဆိုး၍လာခဲ့သော ခင်ပွန်းသည်ကိုပင် သူစိမ်းပြင်ပြင်ကဲ့သို့ ခေါ်ဝေါ်သုံးနှုန်းလိုက်ပေပြီ။

အိမ်ထောင်သည် အမျိုးသမီးများမှာ အမျိုးသားများကဲ့သို့ မိဘနှစ်ပါး ခွင့်ပြုရုံဖြင့် မလုံလောက်သေးပါ။ ကာမပိုင် လင်ယောကျ်ားကပါ မိဘနှစ်ပါးနည်းတူ ခွင့်ပြုပါမှ ရဟန်းပြုခွင့်ရကြပေသည်။

ရရှိထားသော ဝိပါက ဝဋ်ခန္ဓာကြီးကို သာသနာတော်ကြီးအတွက် အသုံးပြုနိုင်ရန် ခွင့်ပန်သူက ခွင့်ပန်လာချေပြီ။

ရေမြေသဘာဝ မျှတစိမ်းစိုသော အရပ်တွင် မိဘနှစ်ပါး၏ ကောင်းမွေများကိုသာ ဆက်ခံ၍ မွေးဖွားလာခဲ့သော မယ်ခေမာသည် ပင်ကိုအားဖြင့် ချောပြီးလှပြီးဖြစ်ပါ၏။ အချောအလှကို သဘောကျ ပြင်ဆင်နိုင်သဖြင့် သူ၏ ဂုဏ်သတင်းက ကျော်စောလှပါ၏။ သို့ရာတွင် ဟိုယခင်က ချောခြင်း လှခြင်းမှာ ရုပ်ခန္ဓာ၏ အလှသာ ဖြစ်ပါ၏။ မာန်မာနကို အလုပ်အကျွေးပြုရုံမျှသာ စွမ်းနိုင်သောအလှ၊ သန့်စင်မွန်မြတ်သော ချစ်ခြင်းမေတ္တာထက် တဏှာရာဂကို ဦးစွာပထမ ဖိတ်ခေါ်တတ်သော အလှသာ ဖြစ်ဘိ၏။ ယခုသော်ကား အလှတွင် အယဉ်ဆင့်၍ လာပေပြီ။

ဘုရားရှင် ခွင့်ပြုတော်မူလိုက်သော အသုဘဘာဝနာ၏ ကျေးဇူးဖြင့် မယ်ခေမာ၏ အလှသည် တဏှာရာဂ မဖက်သော စေတနာ မေတ္တာကို လက်ခံရရှိ၍ နေပေပြီ။

တိုင်းပြည်၏ဥသျှောင်ကိုင်ဖြစ်သော ကျောင်းဒါယကာကြီးသည် အဝန်းကျယ်လှသော မဂဓတိုင်းကြီး၏ သေရေးရှင်ရေး ကိစ္စများကိုပင် နေ့စဉ်နှင့်အမျှ အဆုံးအဖြတ်ပေးလာခဲ့ရ၏။ စိတ်နှလုံးတုန်လှုပ်ဖွယ်ရာ ကိစ္စကြီးများကိုပင် ခိုင်ကျည်သော စိတ်နှလုံးဖြင့် တည့်တည့်မတ်မတ် ကျင့်သုံးခဲ့ရ၏။ သို့သော် ထိုကိစ္စများသည်ကား

တိုင်းရေးပြည်ရေး ကိစ္စများသာ ဖြစ်ဘိ၏။ တိုင်းပြည်အုပ်ချုပ် မင်းလုပ်သူတိုင်း မလွဲမသွေ ဆောင်ရွက်ရသော တာဝန်များသာ ဖြစ်ဘိ၏။

ယခု မယ်ခေမာ လျှောက်ထားလာသော ကိစ္စကား တိုင်းရေး ပြည်ရေး မဟုတ်ဘဲကိုယ်ရေးကိုယ်တာ ဖြစ်နေချေပြီ။ ကိုယ်ရေးကိုယ်တာမှ သာမညမဟုတ်။ နှလုံးသားကိစ္စ ဖြစ်နေချေသည်။

သာသနာ့အသိ၊ သာသနာ့အမြင်ကို ရရှိထားသော သာဝကတစ်ဦးပီပီ သူသည် သာသနာတော်ကြီးကို အလုပ်အကျွေးပြုလိုလှ၏။ ထိုသို့ပြုရာတွင် ချစ်လှစွာသော မိဖုရားလေး မယ်ခေမာလည်း ဖဝါးခြေထပ်လိုက်ပါလာစေလို၏။ ဤအလိုဆန္ဒအရ အုံနှင့်ကျင်းနှင့် ဝိုင်းဝန်းစီမံလိုက်သဖြင့် ဘုရားရှင်ကိုရှောင်နေခဲ့သော မယ်ခေမာသည် ဘုရားရှေ့တော်မှောက်သို့ ရောက်ရှိခဲ့ပါ၏။ ဤသို့ရှေ့တော်မှောက်သို့ ရောက်ပြီးလျှင် ယခင်က အမူအကျင့်ကို ပြုပြင်ကာ သာသနာပြု အမျိုးသမီးတစ်ယောက် ဖြစ်လာမည်ဟု မျှော်လင့်ခဲ့၏။ သူမျှော်လင့်ထားသည့်အတိုင်း မယ်ခေမာသည် သာသနာပြု အမျိုးသမီးတစ်ယောက်ကား ဖြစ်လာပါ၏။ သို့သော် သူနှင့်အတူလက်တွဲ၍ သာသနာပြုမည့်သူကား မဟုတ်တော့ပါ။ ချစ်ခင်ခဲ့သော ခင်ပွန်းလင်ကိုပင် လက်တွဲဖြုတ်ကာ သူတစ်ဦးတည်း သာသနာပြုတော့မည်တဲ့။

သူက သံယောဇဉ်အမျှင်လေးကြားမှာ သာသနာ့အကျိုးကို သယ်ပိုးချင်သည်။ မယ်ခေမာကတော့သံယောဇဉ် အမျှင်တစ်ခုမျှ အကပ်မခံတော့ဘဲ လွတ်လွတ်ကျွတ်ကျွတ် သာသနာပြုချင်ပေပြီ။ တိုင်းပြည်ဥသျှောင်ကိုင် ဘုရင်ကြီးတစ်ပါးသည် သာသနာ့အာဇာနည်အမျိုးသမီးအား လက်အုပ်ချီလိုက်ရပေတော့သည်။

"အို....အရှင်မ ခေမာ၊ ကျွန်ုပ် ကျေနပ်စွာ ခွင့်ပြုလိုက်ပါသည်။ အရှင်မ၏ ရဟန်းပြုရေး ကိစ္စအဝဝ ပြည့်စုံပါစေမည်"

အရှင်သခင်အဖြစ်မှ ပစ္စည်းလေးပါး ဒါယကာကြီးအဖြစ်သို့ ချက်ချင်း လက်ငင်း ကူးပြောင်းလျက် ရိုသေစွာ လျှောက်ထားလိုက်ရပေသည်။

တိုင်းရေးပြည်ရေး ကိစ္စများကို တည့်တည့်မတ်မတ် ဆုံးဖြတ်လာခဲ့သော ဘုရင်ဗိမ္ဗိသာရသည် ကိုယ်ရေးကိုယ်တာ နှလုံးသား ကိစ္စကိုလည်း မှန်ကန်စွာ အဆုံးအဖြတ် ပေးလိုက်ပါပေသည်။

ဤဆုံးဖြတ်ချက်အရ ချစ်မြတ်နိုးလှစွာသော မိဖုရား မယ်ခေမာကို ရွှေဝေါဖြင့် တင်လျက် ရဟန်းမများကျောင်းသို့ ပို့ဆောင်ပေးလိုက်ရ၏။ ရဟန်းမများထံမှာ သိမ်ဝင်ခဲ့ပြီးနောက် ကျွန်ုပ်တို့ထံမှာ တစ်ခါထပ်၍ ကံဆောင်ရသေး၏။ မိန်းမသားများ၏ ရဟန်းခံပွဲမှာ ဤသို့ပင် နှစ်ကြိမ် နှစ်ခါ ကျင်းပကြရပေသည်။

အာဇာနည်စိတ်ဓာတ်အပြည့်ဖြင့် သာသနာ့ဘောင် ဝင်ရောက်လာသော အရှင်ခေမာကို ချီးကျူးရသည်နှင့်အမျှ ကိုယ်ရေးကိုယ်တာထက် ဘုရားရှင့်

ရွှေမျက်နှာကို အလေးထားပေသော ဘုရင်ကြီး ဗိမ္ဗိသာရကိုလည်း ကျွန်ုပ်တို့ တစ်တွေက သာဓုနမော် ခေါ်ကြရပါပေသည်။

**(ခေမာထေရီအပဒါန်)**

တိတ်ဆိတ်သောနေရာ၌ မွေ့လျော်ခြင်းသည် ဘုရားရှင်တို့၏ အလေ့အလာ ဖြစ်ပါ၏။ သို့ပါလျက် ဝေဠုဝန် ဥယျာဉ်တော်တွင်ကား ဘုရားရှင်သည် မိမိ နှစ်ခြိုက်လှစွာသော အလေ့အလာကိုပင် ခေတ္တအားဖြင့် စွန့်လွှတ်၍ ထားတော်မူခဲ့ ရ၏။ သည်ကရှေ့မှာတော့ ဤသို့စွန့်လွှတ်ရန် မလိုတော့ပါပြီ။

ရှင်တော်မြတ် ငံ့လင့်တော်မူခဲ့သော ပညာဂုဏ်ထူးဆောင် ဖြစ်လာမည့် တပည့်မသည် ဤယနေ့မှာပင် သာသနာ့ဘောင်သို့ သက်ဝင်လာပြီဖြစ်ရာ လူဝင်လူထွက်ပေါများလှသော ဤဥယျာဉ်တော်မှ ခရီးထွက်ကြရပါတော့မည်။

လှသံသွသ် ဆည်းလှသော ဝေဠုဝန်ဥယျာဉ်တော်ကို စွန့်ခွာလာခဲ့ရာတွင် ဘုရားရှင်အဖို့ အခြားသော ရည်ရွယ်ချက်များလည်း ရှိတန်ရာပါ၏။ ဘုရားရှင် ကြွတော်မူလျှင် ကျွန်ုပ်တို့တစ်တွေလည်း နောက်တော်ပါးမှ ဖဝါးခြေထပ် လိုက်ပါရ ပေသည်။ ထိုအခါတွင် သာသနာ့ဘောင်အတွင်းမှ ကျွန်ုပ်တို့ နှမများသည်လည်း အစဉ်မပျက် လိုက်ပါ၍ လာကြပေသည်။ ဤတွင်မှ စွန့်ခြင်းကြီး တစ်ပါးကို အားခဲ၍ စွန့်ခဲ့ရပေသော ဘုရင်ကြီး ဗိမ္ဗိသာရအဖို့ နေသာထိုင်သာ ရှိလာပေလိမ့်မည်။ မြင်ရုံသာမြင်ရ၍ မကြင်ရသော ဝင့်ဆင်းရဲမှ လွတ်မြောက်ခွင့် ရပေလိမ့်မည်။ ဤသည်မှာ ကျွန်ုပ်တို့၏ အတွေးအထင်မျှသာဖြစ်၍ ကံသေကံမ ဖြစ်ရမည်ဟု မဆိုနိုင်ပါ။ မမြင်ရခါမှ ပို၍ပင် လွမ်းနာကျချင်လျှင်လည်း ကျနိုင်ပေသည်။ အချစ်ရှိလျှင် အလွမ်းရှိရမည် မဟုတ်ပါလော။

မည်သို့ပင်ဖြစ်စေ သတ္တဝါဝေနေယျတို့ အကျိုးစီးပွားအတွက် ဘုရားရှင်ကား ဒေသစာရီ ကြွချီခဲ့ပြီဖြစ်၏။ ရောက်လေရာအရပ်တွင် တရားရသာ မြိုက်သြဇာ အလှူကြီးကို ပေးလျက် ဇေတဝန်ကျောင်းတော်သို့ ဆိုက်ရောက်တော်မူခဲ့၏။ ဇေတဝန် ကျောင်းတော်တွင်ကား ဝေဠုဝန်မှာကဲ့သို့ မကြုံရတော့သဖြင့် အချိန်ကြာကြာ နေဖြစ်ကြပေသည်။

အရှင်မ ခေမာသည် ရာဇဂြိုဟ်မှ ထွက်လာစဉ်က ကျွန်ုပ်တို့နှင့် အတူ ဖြစ်၏။ သို့သော် ဇေတဝန်ကျောင်းတော်ထိအောင်ကား လိုက်ပါမလာပေ။ သာဝတ္ထိမြို့တော်နှင့် သာကေတအကြားမှာရှိသော တောရဏဝတ္ထုရွာတွင် အဖော် ရဟန်းမများနှင့်အတူ ဝါကပ်ရန် နေရစ်ခဲ့ပေသည်။

တောရွာတစ်ရွာတွင် ဝါဆို၍နေသော်လည်း အရှင်မခေမာ၏ ဂုဏ်သတင်း ကား ဇေတဝန်ကျောင်းတော်ထိအောင် ပျံ့နှံ့၍လာပေသည်။ မွှေးကြိုင်လှသော ဂုဏ်သတင်းများမှာ အရှင်မ၏ ရုပ်ရည်ရူပကာနှင့် မဆိုင်ပါ။ သားမြီးဖျားကို

ခွဲခြမ်းစိတ်ဖြာနိုင်သော စားသွားတမျှ ထက်မြက်စူးရှလှသော ဉာဏ်ပညာနှင့်သာ ဆိုင်ပေသည်။

တိုင်းခန်းလှည့်လည်လာခဲ့သော ကောသလမင်းကြီးသည် သာကေတမြို့မှ သာဝတ္ထိမြို့တော်သို့ ထွက်လာခဲ့ရာတွင် တောရဏဝတ္ထုရွာမှာ တစ်ညဝင်၍ အိပ်ခဲ့ရ၏။ ညအိပ်ရင်းက အရှင်ခေမာနှင့် တွေ့ဆုံကာ တရားစကား ဆွေးနွေးခဲ့ပြီးနောက် ဘုရားရှင်ထံ ရောက်လာခဲ့ခြင်း ဖြစ်ပေသည်။

"အရှင်ဘုရား၊ သတ္တဝါသည် သေလွန်ပြီးသည့်နောက်တွင် တစ်စုံတစ်ရာ ဖြစ်ပါသေးသလား"

ရိုသေစွာ ဦးချဝတ်ပြုပြီးသည်နှင့် ကောသလမင်းကြီးက ဤသို့လျှောက်ထားလိုက်၏။

"မင်းကြီး၊ ဤပြဿနာကို ငါဘုရား မဖြေကြားလိုပေ"

မေးလျှောက်လာသော ပြဿနာကို ဘုရားရှင်က ချက်ချင်းငြင်းပယ်တော်မူလိုက်ပေသည်။

"သို့ဖြစ်လျှင် သတ္တဝါသည် သေလွန်ပြီးနောက် တစ်စုံတစ်ခုမျှ မဖြစ်တော့ပြီလား အရှင်ဘုရား"

ငြင်းပယ်ပြီးသော ပြဿနာကိုပင် တစ်ဖက်သော ရှုထောင့်မှတစ်ခါထပ်၍ မေးပြန်၏။

"မင်းကြီး၊ ဤပြဿနာကို ငါဘုရား မဖြေကြားလိုပေ"

ဘုရားရှင်ကတော့ ငြင်းမြဲသာ ငြင်းပယ်တော် မူပေသည်။ သို့ရာတွင် ပသေနဒီ ကောသလမင်းကြီးက လက်မလျှော့သေးဘဲ–

"အရှင်ဘုရား၊ သတ္တဝါသည် သေလွန်ပြီးနောက် တချို့မှာဖြစ်၍ တချို့မှာ မဖြစ်ဘဲ နေပါသလား"

"မင်းကြီး၊ ဤပြဿနာကို ငါဘုရား မဖြေကြားလိုပေ"

"အရှင်ဘုရား၊ သတ္တဝါသည် သေလွန်ပြီးသည်နောက် ဖြစ်သည်လည်း မဟုတ် မဖြစ်သည်လည်း မဟုတ်ဟု ဆိုရပါမည်လား"

"မင်းကြီး၊ ဤပြဿနာကို ငါဘုရား မဖြေကြားလိုပေ"

မေးမည့်မေးတော့လည်း လမ်းဆုံးအောင်ပင်မေးလိုက်ရ၏။ မေးလေသမျှမှာလည်း ငြင်းပယ်ခြင်းဖြင့်သာ အဆုံးသတ်ခဲ့ရ၏။

မဂဓ၊ ကောသလ၊ ဝဇ္ဇီစသော တိုင်းနိုင်ငံများဝယ် ဗုဒ္ဓသာသနာတော် ပွင့်လင်း ထွန်းကားနေသည်မှာလည်း မှန်ပါ၏။ သို့သော် အခြား အခြားသော အယူဝါဒရှင်တို့သည်လည်း မြို့ရွာနယ်ပယ်အနှံ့ ဖြန့်ကျက်လျက်ရှိကြပေသည်။ ကိုယ့်အသင်းအပင်းနှင့်ကိုယ် ဘုရားတစ်ဆူလုပ်နေကြသူများပင် ရှိကြပေသည်။

ထိုသူ ထိုသူတို့၏ နယ်ပယ်၌ ဤပြဿနာများသည် အရေးပါသော သဘောတရားများ ဖြစ်နေကြ၏။ အယူဝါဒ မတူသူများနှင့်လည်း လည်းကောင်း၊ ဝါဒတူသူအချင်းချင်းလည်းကောင်း ဤပြဿနာများကို မေးကြ မြန်းကြ ဆွေးနွေးကြ၏။ သို့ရာတွင် ယတိပြတ်အဖြေကား မရခဲ့ကြပေ။ ဤမေးခွန်းလေးခု ကြားမှာသာ ချာချာလည်၍ နေကြ၏။

အယူဝါဒရှင်တို့ကြားမှာ ရေပန်းစားနေသော ဤပြဿနာများသည် ယခု ဘုရားရှင်ထံ ရောက်၍ လာကြပေပြီ။

ဤပြဿနာတို့၏ ပင်ရင်းမူလမှာ သတ္တဝါတို့၏ ဘဝကူးပြောင်းမှုပင် ဖြစ်၏။ ဘုရားရှင်ကိုယ်တော်မြတ်ကြီး၏ သာသနာတော်မှာကား သတ္တဝါဟူ၍ပင် မရှိပေ။ အကြောင်းတရားတို့ ပေါင်းဆုံလာမှုကြောင့် ဖြစ်ပေါ်လာကြသော အကျိုးတရား အဆက်ဆက်သာ ရှိပေသည်။ တစ်နည်းအားဖြင့် ပုဂ္ဂိုလ်သတ္တဝါ၊ ငါ သူတစ်ပါးဟူ၍ မရှိဘဲတရားသက်သက်မျှသာ ရှိပေသည်။

ဤသို့အားဖြင့် ငါမရ သူမရ အနတ္တသဘာဝကို ဟောကြားတော်မူခဲ့သော ဘုရားရှင်သည် အတ္တဝါဒမှာ အခြေခံလာသော ဤပြဿနာကို မည်သို့ အဖြေပေးရမည်နည်း။ ဖြေကြား၍ မဖြစ်နိုင်သော ပြဿနာများကို မဖြေကြားဘဲနေလိုက်ခြင်းသည်ပင် အကောင်းဆုံးသောအဖြေ ဖြစ်ပေသည်။

"အရှင်ဘုရား၊ ဤပြဿနာလေးပါးကို မဖြေကြားလိုဟု အဘယ့်ကြောင့် မိန့်တော်မူပါသလဲ"

အရိယာတို့၏ ဉာဏ်မြင်ဖြင့် တိုတိုတုတ်တုတ် ဖြေကြားလိုက်ခြင်းသည် အရိယာဉာဏ် အမြင်မသန်သေးသော ကောသလမင်းကြီးအတွက် ကျေနပ်လောက်သော အဆင့်သို့ ရောက်ဟန်မတူသေးပေ။ ထို့ကြောင့် ဤသို့ပွင့်လင်းစွာ မေးလျှောက်လိုက်ရခြင်း ဖြစ်ပေသည်။

"ကောင်းပြီ မင်းကြီး၊ ဤအဖြေကို လက်မခံသေးလျှင် ဥပမာပေး၍ မင်းကြီးကိုပင် ပြန်၍ မေးရပါဦးမည်။ ဤမေးခွန်းကိုအသင်မင်းကြီး စိတ်တိုင်းကျ ဖြေဆိုနိုင်သည်။ အသင်မင်းကြီးမှာ ဂင်္ဂါမြစ်ထဲက သဲလုံးများကို ဤရွေ့ ဤမျှဟု ဂဏန်းချ၍ ရေတွက်နိုင်သူရှိပါသလား"

"မရှိပါ အရှင်ဘုရား"

"သို့ဖြစ်လျှင် မဟာသမုဒ္ဒရာထဲက ရေများကို စိတ်တောင်း၊ ပြည်တောင်းတို့ဖြင့် ဤရွေ့ ဤမျှ ရှိပါ၏ဟု ခြင်တွယ်နိုင်သူရှိပါသလား"

"မရှိပါ အရှင်ဘုရား"

"မင်းကြီး အဘယ့်ကြောင့် မရှိပါသလဲ"

"အရှင်ဘုရား မဟာသမုဒ္ဒရာသည် အလွန်တစ်ရာနက်ရှိုင်းလှပါ၏။ တိုင်းတာ၍ မရလောက်အောင် ကျယ်ဝန်းလှပါ၏။ မည်သည့်သတ္တဝါမျှ ထောက်ရာတည်ရာ မရနိုင်ပါ။ ထို့ကြောင့် မခြင်တွယ်နိုင်ခြင်း ဖြစ်ပါသည် အရှင်ဘုရား"

"မင်းကြီး၊ ငါဘုရားသည် ဤဥပမာအတိုင်းပင်ဖြစ်ပေသည်။ သတ္တဝါဟူ၍ ပညတ်ရုံမျှ ပညတ်၍ ရနိုင်သော ခန္ဓာငါးပါးတို့အပေါ်၌ 'ငါ့ဟာ'ဟူ၍ စွဲလမ်းတတ်သော သမုဒယတဏှာကို ငါဘုရား ပယ်ခဲ့ပြီးပြီ။ အမြစ်ကို ဖြတ်ခဲ့ပြီးပြီ။ အငုတ်ပါမကျန် နုတ်အပ်ပြီးသော ထန်းပင်ရာကဲ့သို့ ပြုခဲ့ပြီးပြီ။ မရှိလုံးလုံး သုဉ်းဆိတ်အောင် ပြုခဲ့ပြီးပြီ။ နောက်ထပ်တစ်ဖန် ဖြစ်ပေါ်ရန် မရှိတော့ပြီ။

"မင်းကြီး၊ ခန္ဓာငါးပါးတို့အပေါ်၌ သတ္တဝါဟူ၍ ခေါ်ဆိုပညတ်ခြင်းမှ လွတ်မြောက်ပြီးသော ငါဘုရား၏ ဉာဏ်တော်သည် မဟာသမုဒ္ဒရာကဲ့သို့ပင် နက်ရှိုင်းလှ၏။ မဟာသမုဒ္ဒရာကဲ့သို့ပင် ကျယ်ဝန်းလှ၏။ သာမန်ဉာဏ်မျိုးဖြင့် မီအောင်ထောက်၍ မရနိုင်ပေ။ ထိုဉာဏ်ကြီး၏ သခင် ငါဘုရားသည် သတ္တဝါ သေလွန်ပြီးနောက် တစ်စုံတစ်ခုဖြစ်သည်ဟု ပြောဆိုရန် မသင့်ပေ။ သတ္တဝါ သေလွန်ပြီးနောက် ဘာမျှ မဖြစ်တော့ဟူ၍လည်း ပြောဆိုရန် မသင့်ပေ။ တချို့ဖြစ်၍ တချို့ မဖြစ်ဟူ၍လည်း ပြောဆိုရန် မသင့်ပေ။ ဖြစ်သည်လည်း မဟုတ် မဖြစ်သည်လည်း မဟုတ်ဟူ၍ ပြောဆိုရန်လည်း မသင့်ပေ"

အတ္တ အယူအစွဲဖြင့် ပေါ်ပေါက်လာသော ပြဿနာများကို အနတ္တသဘောဟောပြသော ဒေသနာတော်ဖြင့် ဘုရားရှင်က ဖြေရှင်း၍ ပေးတော်မူလိုက်ပေသည်။

ပသေနဒီ ကောသလမင်းကြီးသည် ကိုယ်တွေ့ဉာဏ်မြင် ဒိဋ္ဌိစင်သည့် အဆင့်သို့ကား မရောက်ပေ။ သို့သော် အခြားတစ်ပါးသော ဝါဒရှင်တို့ ယတိပြတ်ဖြေဆို၍ မရနိုင်ခဲ့သော ပြဿနာကြီးများကို အချက်ကျကျ ဖြေရှင်းပေးလိုက်ပုံကိုကား နှစ်ထောင်းအားရ ရှိလှ၏။ ထို့ထက်ပို၍ နှစ်ခြိုက်စရာကောင်းသည်မှာကား ကိုယ်တော်မြတ်၏ ဖြေရှင်းပုံသည် တောရဏဝတ္ထု ရွာမှာတုန်းက အရှင်မခေမာ ဖြေရှင်းခဲ့ပုံနှင့် တစ်သဝေမတိမ်း တူညီနေခြင်းပင် ဖြစ်ပေသည်။

**(အဗျာယတနဝဂ်၊ အဗျာကတသံယုတ် ပါဠိတော်နှင့် အဋ္ဌကထာ)**

နောက်တော်ပါးက ဖဝါးခြေထပ် လိုက်ပါနိုင်စွမ်းရှိပေသော ဤအရှင်မအား ရှင်တော်မြတ်ဘုရားက ဉာဏ်ပညာကြီးကျယ်သော အရာ၌ "ဧတဒဂ်"ဂုဏ်ထူးဖြင့် ချီးကျူးတော်မူလိုက်ခြင်းမှာ လျော်ကန်သင့်မြတ်လှပါပေသည်။

**(အင်္ဂုတ္တရ အဋ္ဌကထာ၊ ဧကနိပါတ်၊ ဧတဒဂ္ဂဝဂ်)**

❋❋

## မညှိုးနွမ်းသည့် ပန်းကြာညို

အခြေအနေရ ပိတ်ပင်ထားတော်မူခဲ့သော ဘိက္ခုနီသံဃာ့တံခါးမုခ်ကို ကျွန်ုပ်သည် မရအရ ဖွင့်ပေးခဲ့၏။ အမျိုးသမီးများ ရသင့်ရထိုက်သော အခွင့်ထူးကြီးကို ဓမ္မဝိဋ္ဌာန် စကားလုံးများသုံးကာ တောင်းဆို၍ ပေးနိုင်ခဲ့၏။ ဤလို တောင်းဆိုပေးခဲ့သဖြင့် ရှင်တော်မြတ်၏ အကြိမ်းအမောင်းများကို ခံယူခဲ့ရ၏။ သို့သော် ကျွန်ုပ်အဖို့ ဤကိစ္စအတွက် စိတ်ပျက်ရန်၊ စိတ်ကွက်ရန် လုံးဝ မလိုအပ်ပါ။ ငွေစန္ဒာ လဝန်း ကြီး၏ ထံတော်ပါးဝယ် မောင်ကြီး မောင်ငယ်များနှင့် အတူတကွ ထွန်းလင်း တောက်ပခွင့်ရလာကြသော ထေရီမယ် ငွေစင်ကြယ်များ ရှိနေကြပြီ မဟုတ်ပါလား။

ပထမဦးစွာ မယ်တော်ကြီး မဟာပဇာပတိ ဂေါတမီ။ သူ၏ နောက်မှာ သကျ မင်းသမီး ငါးရာ။ ထို့နောက် မယ်ခေမာကဲ့သို့ ထင်ရှားကျော်ကြားသော အမျိုးသမီး များ။ သူတို့ သူတို့တစ်တွေသည် ကျွန်ုပ် ဖွင့်ပေးထားသော တံခါးမှ အစီအရီ ဝင်လာ ခဲ့ကြ၏။ ဝင်လာပြီးသည့် နောက်မှာလည်း ဘေးမသီ ရန်မခ သာသနာ့တာဝန်ကို ထမ်းဆောင်ခွင့်ရခဲ့ကြပေသည်။

ဘေးရန်ကင်းကွာ တစ်သက်တာလုံး နေခွင့်ရခဲ့ကြသော ထိုအရှင်မများ အတွက် ဝမ်းမြောက်ဝမ်းသာ ဖြစ်ခဲ့ရသော ကျွန်ုပ်သည် အရှင်မဉပ္ပလဝဏ်အလှည့် တွင်ကား ဝမ်းသာ ဝမ်းနည်း ဖြစ်ရပေတော့သည်။

အရှင်မဉပ္ပလဝဏ်သည် အရှင်မ ခေမာကဲ့သို့ အိမ်ထောင်သည်ဘဝမှ လာခဲ့သူ မဟုတ်ပါ။ အပျိုစင်ဘဝဖြင့် သာသနာ့ဘောင် ဝင်ရောက်လာသူဖြစ်ပေသည်။

ဉပ္ပလဝဏ် အပျိုစင်ဘဝဖြင့် နေလာခဲ့ခြင်းမှာ ဖူးစာရှင် မပေါ်ပေါက်၍ မဟုတ်ပေ။ သူလို မိန်းမပျိုတစ်ယောက်အဖို့ ဖူးစာရှင် မပေါ်ပေါက်မှာကို စိုးရိမ်စရာ မရှိပေ။ မျိုးရိုးအားဖြင့် သာဝတ္ထိမြို့တော်ကြီးမှာ ထင်ရှားသော သူဌေးကြီး ဇနီး မောင်နှံတို့၏ တစ်ဦးတည်းသော သမီး။ အသားအရေမှာ ကြာညိုပန်း ဝတ်ဆံ

ကဲ့သို့ တင့်တယ်၏။ မိန်းမတို့၏ ကြံအင်လက္ခဏာ ပြည့်စုံ ကုံလုံလှ၏။ သည်ကြာညိုပန်း၏ သတင်းများက လေအောက် လေညာမရွေးတမ်း ပျံ့နှံ့၍နေလေရာ မင်းညီ မင်းသားများ၊ ဂုဏ်ရည်တူ သူဌေးသားများသည် သူ့ထက်ငါ စပ်လာ ဟပ်လာကြပေသည်။

စောစောပိုင်းတုန်းက မိဘနှစ်ပါးမှာ စန်းပွင့်လှသော သမီးကလေးအတွက် ဂုဏ်တဝင့်ဝင့် ဖြစ်မိ၏။ "သမီးလေးငယ်ပါသေးသည်၊ အိမ်ထောင်ရေးကိစ္စတွေ စိတ်ဝင်စားဦးမည် မဟုတ်သေးပါ"ဟု ဒိုင်ခံပြောနေရခြင်းကိုပင် အရသာတစ်ခု ထင်မှတ်ခဲ့ကြ၏။ တစ်စထက်တစ်စ များလာသောအခါမှာကား မိဘနှစ်ပါးလုံး ဘေးကျပ်နံကျပ် ဖြစ်လာကြရပေတော့သည်။

တောင်းလာကြသော သတို့သားတွေက အမြောက်အမြား။ ပေးစရာရှိသည်မှာ ကား သည်သမီးလေး တစ်ယောက်မျှသာ။ တစ်ယောက်ကိုပေးလိုက်လျှင် ကျန်လူ များက မကျေမချမ်း ဖြစ်လာကြပေတော့မည်။ မကျေနိုင် မချမ်းနိုင်သူများသည် သူ့လို ကိုယ်လို သူဌေးများချည့်ဆိုလျှင်ကား ကိစ္စမရှိလှပါ။ ပစ္စည်းအားနှင့် ဖိလာလျှင် ပစ္စည်းအားနှင့် ခုခံနိုင်၏။ ဆွေသိုက်မျိုးသိုက်နှင့် ဝိုင်းဝန်းလာလျှင်လည်း သည်က ဆွေသိုက် မျိုးသိုက်ကလည်း ရေပက်၍ မဝင်အောင် ကာကွယ်ပေးကြ မည်သာ။

သို့သော် သူတို့အထဲမှာ မင်းညီမင်းသားများ ပါနေသည့်အရေးကိုကား မိဘနှစ်ပါးတို့ စိတ်မအေးနိုင်ပါ။ သူတို့က သူဌေးသားများကဲ့သို့ ပစ္စည်းဂုဏ်၊ ဆွေမျိုးဂုဏ်ကို အားကိုးပြုနေသူများ မဟုတ်ပေ။ ပသေနဒီကောသလမင်းကြီး၏ တန်ခိုးအာဏာနများကို တစ်စိတ်တစ်ဒေသရရှိထားကြသူများ ဖြစ်ကြ၏။ အချို့မှာ အင်မတန် ဓားထက်လှသည်ဟု ကျော်ကြား၏။ ဆွေအား မျိုးအား ပစ္စည်းအားကို အန်တုနိုင်သော်လည်း ဓားထက်ထက်ကိုကား ကျောချမ်းလှပါဘိ။

"အိုဘယ့် သမီးငယ် ဥပ္ပလဝဏ်၊ ဤမျှလောက်ဓာတ်ရှုပ်သည့် လူ့ဘောင်မှာ နေမည့်အစား သာသနာ့ဘောင် ဝင်ရောက်လျှင် မကောင်းပါလား"

ကြံရာမရသည့်အဆုံးဝယ် ဖခင်ကြီးက သမီးစိတ်ကို တီးခေါက်ကြည့်ရတော့ ၏။ မိဘနှစ်ပါးလည်း အန္တရာယ်ကင်း၍ သမီးကလေးလည်း စိတ်ချမ်းသာ ကိုယ်ချမ်းသာ နေနိုင်မည့်လမ်းမှာ ဤတစ်လမ်းသာရှိတော့သည် မဟုတ်ပါလား။

"သာသနာ့ဘောင် ဝင်ရောက်ချင်ပါသည် ဖခင်"

စောစောကတည်းကပင် ရည်စူးရင်းရှိနေခဲ့သော ဥပ္ပလဝဏ်က ဖခင်ကြီး၏ အကြံပြုချက်ကို ဝမ်းသာအားရ လက်ခံလိုက်၏။ သို့နှင့် သာဝတ္ထိမြို့တော်ကြီးဝယ် ဥပ္ပလဝဏ်၏ ရဟန်းခံပွဲကြီး စည်ကားသိုက်မြိုက်စွာ ကျင်းပကြရပေတော့သည်။

အရှင်မ ဥပ္ပလဝဏ်သည် ရဟန်းပြု၍ မကြာမီမှာပင် ဥပုသ်အိမ်မှာ တာဝန်ကျခဲ့၏။ ဥပုသ်အိမ် သိမ်အပြင်မှာ သည်နေ့ ဥပုသ်ပြုလာကြမည့် အရှင်မများ ချမ်းသာစွာနေကြရန် တံမြက်လှည်းထားရ၏။ သောက်ရေများ ခပ်ထားရ၏။ နေရာထိုင်ခင်းများခင်းထားရ၏။ နေဝင်ချိန်ရောက်ပြီမို့ ဆီမီးခွက်များလည်း မြိုင်မြိုင်ဆိုင်ဆိုင် ထွန်းထားရပေသည်။

ဥပုသ်ပြုရန်အရှင်မများ ရောက်မလာသေးမီအခိုက်တွင် အရှင်မ ဥပ္ပလဝဏ်သည် ဆီမီးတောက်ကို စူးစိုက်ကြည့်ကာ တေဇောကသိုဏ်းကို ပွားများနေ၏။ ဘဝအခြေခံကောင်းသူဖြစ်၍ တေဇောကသိုဏ်းဖြင့် လောကီစျာန်ကို ထိုခဏအတွင်းမှာပင် ရရှိ၏။ ထိုတစ်ခဏအတွင်းမှာပင် သမာပတ်မှတစ်ဆင့် ဝိပဿနာနယ်သို့ ကူးပြောင်းလာခဲ့၏။ သီတင်းသုံးဖော် အရှင်မများ ရောက်လာကြချိန်တွင်ကား အရှင်မ၏ ရဟန်းကိစ္စ ပြီးပြည့်စုံခဲ့လေပြီတည်း။

ဤအချိန်အထိ အရှင်မအတွက် ကျွန်ုပ်တို့ စိတ်ထိခိုက်ရသော ကိစ္စ မပေါ်ပေါက်သေးပါ။ အန္ဓဝန် တောအုပ်အတွင်းက ကျောင်းငယ်တစ်ခုဝယ် တောရဆောက်တည် နေချိန်တွင်မှ မကြားကောင်း မနာသာ သတင်းဆိုးကြီး ထွက်ပေါ်လာပေသည်။

(ဓမ္မပဒ အဋ္ဌကထာ၊ ဗာလဝဂ်၊ ဥပ္ပလဝဏ်ထေရီမ ဝတ္ထု)

အန္ဓဝန်တောအုပ်သည် သာဝတ္ထိမြို့တော်ဝန်းကျင် ဇေတဝန်ကျောင်းတော်၏ ကျောဘက်မှာ တည်ရှိ၏။ ဇေတဝန်ကျောင်းတော်နှင့်လည်း မနီးမဝေး၊ လူသံသူသံ တိတ်ဆိတ်ရာ ဌာနလည်းဖြစ်၍ စိတ်အေးချမ်းသာ တရားဘာဝနာ ပွားများနေလိုသူတို့၏ မှီခိုရာဌာန ဖြစ်ပေသည်။

ရှေးအခါက ဤနေရာ ဤဌာနသည် လူသူအရောက်အပေါက်နည်းသော တောကြီးမျက်မည်းဖြစ်ခဲ့သည် ဟူ၏။ ခိုးသားဓားပြ ထူပြောလှသည်ဟူ၍လည်း နာမည်ကြီးလှ၏။

တစ်နေ့သ၌ ဤတောကြီးထဲသို့ ယသောရတ မည်သော ဥပါသကာကြီး တစ်ယောက်တည်း ဝင်လာခဲ့၏။ သူကား ကဿပ မြတ်စွာဘုရား၏ တပည့်တစ်ဦးဖြစ်၍ အနာဂါမ်အဆင့် ရောက်နေသူဖြစ်၏။ ပိဋကတ်သုံးပုံ နှုတ်ငုံဆောင်နိုင်သူလည်း ဖြစ်၏။ ပရိနိဗ္ဗာန်စံဝင်ပြီဖြစ်သော ကဿပ မြတ်စွာဘုရား၏ စေတီတော်ကြီး ပြီးစီးရေးအတွက် ဇမ္ဗူဒိပ်တစ်ခွင်လုံး လှည့်လည်၍ နိဗ္ဗာန်ဆော်လုပ်ရာမှ ပြန်လာခဲ့ခြင်း ဖြစ်ပေသည်။

ဤနေရာ ဤဌာနရောက်သည်နှင့် ဓားပြ ငါးရာတို့သည် ဥပါသကာကြီးကို ဝိုင်း၍ ဖမ်းလိုက်ကြ၏။ စေတီတော်ကြီးအတွက် လှူခဲ့လေသမျှ ရွှေ၊ ငွေ၊ ကျောက်သံပတ္တမြားတွေ ပါလိမ့်မည်ထင်ကြ၍ ဖြစ်ပေသည်။ ရလာသမျှသော

လှူဖွယ်ဝတ္ထုများကို ဥပါသကာကြီးက ညမဆိုင်းဘဲ စေတီတော်ကြီးတည်ရာသို့ လှည်းကြီးနှင့် ပို့နေသည်ကို သူတို့ မသိကြလေတကား။

ဥပါသကာကြီး၏ ကိုယ်ပေါ်ဝယ် ဝတ်ဆင်ထားသော အဝတ်တစ်စုံမှလွဲ၍ ဘာမျှမရှိပေ။ သို့ဆိုလျှင် အသာတကြည် လွှတ်လိုက်ပါတော့လား၊ လူနည်းစုက ဤသို့ သဘောရသော်လည်း လူများစုက နောက်ကြောင်းမလှဲ့ပေ။ "ဤဥပါသကာကြီးသည် မင်းပေါက်စိုးပေါက်ဖြစ်၏။ တို့တစ်တွေ မြို့ပေါ်သို့ အကြောင်းတစ်ခုခုဖြင့် ရောက်လာခိုက် ဥပါသကာကြီးနှင့် ဆုံမိလျှင် ခက်ချိမ့်မည်။ တို့တစ်တွေကို အကုန်ဖမ်းပြီး သေလမ်းပို့လိမ့်မည်"

ဤသို့ ပြောဆိုသူများကများသဖြင့် သာသနာ့အကျိုးတော်ဆောင် ဥပါသကာကြီး အသတ်ခံခဲ့ရပေသည်။ သတ်မိသော ဓားပြတို့သည် တောအုပ်ထဲမှာပင် မျက်ကန်းဘဝ ရောက်ကြရ၏။ ထို့ကြောင့် သည်တောကို အန္ဓဝန်တောဟု ခေါ်တွင်ကြောင်း ရှေးသူဟောင်းတို့ ပြောရိုးဆိုစဉ် ရှိခဲ့ပေသည်။ သူကန်းတောဟု အမိပ္ပာယ်ရပေသည်။

(မူလသဏ္ဌာသ၊ ဝမ္မိကသုတ် အဋ္ဌကထာ)

မောဟာသမား လူရမ်းကားတို့ လက်ချက်ဖြင့် ကဿပဘုရားရှင်၏ သာဝကကြီးတစ်ဦးသည် ဤတောထဲမှာ အသက်ဆုံးရှုံးခဲ့ရ၏။ ဤတောထဲမှာပင် ဂေါတမဘုရားရှင်၏ တပည့်မ တစ်ပါးလည်း တဏှာသမား လူရမ်းကား၏ အနိုင်ကျင့်မှုကို ခံခဲ့ရပါချေသည်။

နန္ဒမည်သော လုလင်သည် အရှင်မ ဥပ္ပလဝဏ်ကို လူ့ဘဝမှာကတည်းက တစ်ဖက်သတ် စွဲလမ်းလာသူဖြစ်၏။ ဆွေမကင်း မျိုးမကင်းထဲကလည်းဖြစ်၏။ လူ့ဘဝမှာတုန်းက ချစ်ခွင့်မသာခဲ့လေသမျှ ရဟန်းမ ဖြစ်လာချိန်မှာ အခွင့်ကြုံလာလိမ့်မည်ဟု မျှော်လင့်ထားခဲ့၏။

သူမျှော်လင့်ထားသည့် အတိုင်းလည်း တစ်နေ့မှာတော့ အခွင့်ကြုံလာချေတော့သည်။ အရှင်မ ဥပ္ပလဝဏ်သည် အဖော်ရဟန်းမများနှင့်အတူ ဒေသစာရီ လှည့်လည်ရာမှ မိဘရပ်ထံ သာဝတ္ထိမြို့တော်သို့ ပြန်ရောက်လာ၏။ ထိုစဉ်က ရဟန်းမများ တောရဆောက်တည်ခွင့် ပြုထားသဖြင့် အရှင်မသည် မြို့နားကျောင်းတွင် မနေဘဲ အန္ဓဝန်တောကြီးထဲမှာ တောရဆောက်တည်၍ နေခဲ့၏။ တောရကျောင်းဖြစ်သည့်အတိုင်း အရှင်မ၏ ကျောင်းကလေးမှာ နေသာထိုင်သာမျှသာ ဖြစ်ပေသည်။

အရှင်မသည် သာဝတ္ထိမြို့တော်တွင် ဆွမ်းခံဝင်ကာ တောရကျောင်းကလေးသို့ ပြန်လာခဲ့၏။ စေ့ရုံသာစေ့ထားခဲ့သော ကျောင်းတံခါးကို တွန်းဖွင့်ကာ ပါလာသော သပိတ်ကို ခုတင်ခေါင်းရင်းမှာ အသာအယာချထားလိုက်၏။ လှမ်းလာခဲ့ရသော

ခရီးတာမှာ တော်တော်ကွာလှမ်းသဖြင့် ခုတင်ပေါ်မှာ အပန်းဖြေ ထိုင်လိုက်ရ၏။ နေပူလယ်ခေါင်မှာ ခပ်ကြာကြာလျှောက်လာရာမှ ကျောင်းရိပ်ထဲသို့ ဝင်လာခဲ့ရာတွင် အရှင်မ၏ မျက်စိများက ရုတ်တရက် အသားမကျသေးဘဲ ဖြစ်နေကြရ၏။ မှုန်ရီဝိုးတဝါး ဖြစ်နေရ၏။ ထိုအခိုက်မှာပင် အကြံသမား နန္ဒသည် ခုတင်အောက်မှ ဘွားခနဲ ထွက်လာခဲ့ပေသည်။

ရှန်းရင်းဆန်ခတ်ဖြစ်ရပ်များ ငြိမ်သက်သွားချိန်တွင် အရှင်မ၏ တစ်နပ်စာဆွမ်းဘောဇဉ်တို့သည် ကျောင်းအနှံ့ ပြန့်ကြဲ၍ နေကြလေပြီတည်း။

(ဓမ္မပဒ အဋ္ဌကထာ၊ ဗာလဝဂ်၊ ဥပ္ပလဝဏ်ထေရီမဝတ္ထု)

ဤသတင်းဆိုးကြီးကို ကြားရခါမှ ကျွန်ုပ်သည် ကိုယ်ပြုမိခဲ့သော အမှုအပေါ်မှာ သို့လော သို့လော ဖြစ်လာရ၏။ ယောကျ်ားသားများနှင့် ဘဝအခြေအနေမတူသော အမျိုးသမီးများကို သာသနာတော်တွင်းသို့ ဖိတ်ခေါ်မိခြင်းသည် မှားများ မှားလေပြီလော။

သို့ရာတွင် သေသေချာချာ စဉ်းစားကြည့်ပြန်တော့လည်း ဤသံသယတို့က ကာလကြာရှည် ရပ်တည် မနေနိုင်ကြပါ။ အားကောင်းမောင်းသန် ရဟန်းပျိုများသည်ပင် အသင်းအပင်းနှင့် အတင်းအဓမ္မ အဖျက်ဆီးခံခဲ့ရသော ဖြစ်ရပ်များ ပေါ်ထွက်ခဲ့ဖူးပေပြီ။ ကံမကောင်းအကြောင်းမလှလျှင် ရဟန်းမများသာမဟုတ် ရဟန်းများလည်း ကျိုးယုတ်ရှက်ကွဲ ဖြစ်ကြရပေသည်။

(ပထမပါရာဇိက သိက္ခာပုဒ်၊ ဘိက္ခုပစ္စတ္ထိကစတုက္က စသည်)

အတင်းအဓမ္မ ဖျက်ဆီးသူများနှင့် မလွဲမရှောင်သာ တွေ့ကြုံရသူများအဖို့ တစ်ခုတည်းသော အားကိုးရာကား မိမိစိတ်သာလျှင် ဖြစ်၏။ ဖျက်လိုဖျက်ဆီး ပြုသူများသည် ခန္ဓာကိုယ်ကိုသာ အနိုင့်အထက် ဖျက်ဆီး၍ ရနိုင်ကြ၏။ ကျောက်စာတိုင်ကဲ့သို့ ခိုင်မာသော စိတ်ဓာတ်ကိုကား ဖျက်ဆီး၍ မရနိုင်ပါ။ နိုင့်ထက်ကလူ မပြုနိုင်ကြပါ။

ထို့ကြောင့် အရှင်မ ဥပ္ပလဝဏ်၏ အမှုကို နားအဆင့်ဆင့်ဖြင့် ကြားသိတော်မူသော ဘုရားရှင်သည် 'ရဟန်းတို့၊ မသာယာသော ရဟန်းမအား အာပတ်မသင့်"ဟု အဆုံးအဖြတ်ပေးတော်မူလိုက်ပေသည်။

(ပထမ ပါရာဇိက သိက္ခာပုဒ်၊ ဝိနီတဝတ္ထု)

တစ်ဖက်သတ် အနိုင်ကျင့်ခံခဲ့ရသော တပည့်မတစ်ဦး၏ ရှေ့တွင် ဘုရားရှင်က ဤသို့ မားမားမတ်မတ် ရပ်တည်ပေးလိုက်သဖြင့် အရှင်မ၏ အကျင့်သိက္ခာ ကြာညိုပန်းသည် လန်းဆန်းမြဲ လန်းဆန်း၍ နေပေသည်။ ကျွန်ုပ်တို့ သာသနာ့ဝန်ထမ်းလောကဝယ် အရှင်မ၏ အကျင့်သိက္ခာနှင့် ပတ်သက်၍ တစ်စိုးတစ်စိမျှ သံသယ

မရှိကြပါ။ သို့သော် ဒါယကာ ဒါယိကာမများဘက်မှာကား ဤကိစ္စနှင့်ပတ်သက်၍ ပြောကြ ဆိုကြ ငြင်းခုံကြဆဲပင် ရှိနေပေသည်။

အရိယာဉာဏ် အမြင်မှန်ရရှိပြီးသူများသည် တစ်စုံတစ်ရာ သာယာတပ်မက်မှု မရှိခဲ့ပါဟု အရှင်မ ပြောပြချက်ကို ကျေနပ်စွာ လက်ခံနိုင်ကြ၏။ ပုထုဇဉ်များကား ဤစကားကို လက်ခံဖို့ခက်နေကြ၏။ သူတို့မျက်မြင်အားဖြင့် အရှင်မ ဥပ္ပလဝဏ်သည် ထင်းခြောက်လည်း မဟုတ်၊ တောင်ပို့လည်း မဟုတ်၊ သူ့လို ကိုယ့်လို သွေးနှင့် သားနှင့်ပင် ဖြစ်ပေသည်။ အရွယ်ကောင်းတုန်း ဆူဖြိုးတုန်းဖြစ်ပေသည်။ ဤအခြေ ဤအနေအရ တောလယ်ကောင်၌ နှစ်ကိုယ်တွေ့ကြရာတွင် မသာယာဘဲ နေနိုင်ချိမ့် မည်လော။ သူတို့ကိုယ် သူတို့စိတ်နှင့် နှိုင်းကြခြင်းပင် ဖြစ်ပေသည်။

ကျွန်ုပ်တို့ ဇေတဝန်ကျောင်းတော်တွင် သီတင်းနေ့တိုင်း တရားပွဲရှိနေ၏။ ဓမ္မာရုံသို့ရောက်လာကြသော ဒါယကာ ဒါယိကာမများအား တာဝန်ကျသော ရဟန်းတစ်ပါးပါးက တရားပြသ ဆိုဆုံးမရ၏။ အကြောင်းကိစ္စတစ်စုံတစ်ရာ ထူးခြားလာသောနေ့တွင်ကား ဘုရားရှင်ကိုယ်တော်တိုင်ထွက်၍ ဟောတော်မူပေ သည်။

ယနေ့လည်းအကြောင်းထူး၍ နေပေပြီ။ ရောက်လာကြသော တရားနာ ပရိသတ်များသည် သမီးတော် ဥပ္ပလဝဏ်နှင့် ပတ်သက်၍ နှစ်ဖက်နှစ်တန် ငြင်း ခုံ၍ နေကြချေပြီ။ သံဃာ့ပရိသတ်၌ပေါ်ပေါက်လာစရာရှိသော သံသယတစ်ကွက်ကို ကြိုကြိုတင်တင် ပယ်ဖျက်တော်မူခဲ့သော သူ့ခမည်းတော်သည် ဒါယကာ ဒါယိကာမ များ၏ သံသယ ချေးညှော်တို့ကိုလည်း ဆေးကြောသုတ်သင်၍ ပေးရပါဦးမည်။

ထို့ကြောင့် ယနေ့တရားပွဲတွင် တာဝန်ကျ ဓမ္မကထိက မဟောသေးမီ ဘုရားရှင်ကို ဦးစွာ ဖူးတွေ့ခွင့်ရကြပေသည်။ ရှင်တော်မြတ်၏ တရားတော်ကို ဦးဦးဖျားဖျား ကြားနာခွင့် ရကြပေသည်။

"အို....ဒါယကာ ဒါယိကာမ အပေါင်းတို့၊ သူတော် သူမြတ်၏ ဖြူစင်သော စိတ်ဓာတ်သည် ပိန်းကြာဖက်နှင့် သဏ္ဌာန်တူပေသည်။ မြည့်မြည့်ချွန်သော စူးဖျား နှင့်လည်း သဏ္ဌာန်တူပေသည်။ ပိန်းကြာဖက်ပေါ်ကျရောက်လာသော ရေစက် ရေပေါက်သည် ပိန်းကြာဖက်မှာ မကပ်မငြိ၊ ချက်ချင်းပင် လျှောကျသွားလေဘိ သကဲ့သို့၊ စူးဖျားပေါ်တင်လာသော မုန်ညင်းစေ့သည် ရပ်တည်ရာမရ၊ ခဏမဆိုင်း လိမ့်ကျသွားရလေဘိသကဲ့သို့ သူတော် သူမြတ်သည် မကောင်းသော လောကဓံနှင့် တွေ့ကြုံရသော်ငြားလည်း သူ၏ ဖြူစင်သော စိတ်ဓာတ်သည် ကာမဂုဏ် အာရုံ တို့၌ ကပ်ငြိလိမ်းကျံခြင်းမရှိပေ။ ထို့ကြောင့် ဖြူစင်သောစိတ်ဓာတ် ရှိသူကို သူတော် သူမြတ်ဟူ၍ ငါဘုရား ဟောကြားတော်မူပေသည်"

ဤဒေသနာတော်အဆုံး၌ လေပွေလေကြမ်း အယမ်းခံခဲ့ရသော ကြာညိုပန်းသည် ပို၍ပင် လန်းဆန်းလာပေသည်။

(ဓမ္မပဒ ဗြာဟ္မဏဝဂ်၊ ဥပ္ပလဝဏ်ထေရိမ ဝတ္ထု)

❋❋

## တရားအလှူ ပေးဝေသူ

ယောက်ျားဘက်က နှစ်ဦး၊ မိန်းမဘက်က နှစ်ဦး၊ သူတို့နှစ်ဦး၏ ကံကြမ္မာသည် တော်တော်ကြီး တူနေပေသည်။

ယောက်ျားများက ဦးစွာပထမ ရတနာသုံးပါးနှင့် အကျွမ်းတဝင်ဖြစ်ခဲ့ကြ၏။ သာသနာ့အသိ သာသနာ့အမြင်ဖြင့် အရိယာစာရင်းဝင်နိုင်ခဲ့ကြ၏။ သူတို့နှစ်ဦး အသိထူး အမြင်ထူးများ ရရှိစဉ်က သူတို့၏ အိမ်ရှင်မများသည် သာမန် သူ့လို ငါ့လိုထဲကပင် ဖြစ်၏။ အသိထူးအမြင်ထူးကို ရဖို့ဝေးစွ။ ဘုရားကျောင်းကန်ကိုမှ အရောက်အပေါက် ရှိသူများ မဟုတ်ကြပေ။

သို့ရာတွင် ထိုအမျိုးသမီးနှစ်ဦးမှာ ပြာဖုံးနေသော မီးကျီခဲများသာ ဖြစ်သဖြင့် ပြာမှုန်များလွင့်စင်သွားသည်နှင့် ဝင်းဝင်းပြောင်ပြောင် တောက်လောင်၍ လာကြပေသည်။ ခင်ပွန်းသည်များ၏ အဆင့်ကိုပင် ကျော်လွန်ကာ အထွတ်အထိပ်သို့ ရောက်သွားကြပေတော့သည်။ တစ်ဦးသည် အရှင်မခေမာ၊ နောက်တစ်ဦးက ဓမ္မဒိန္နာ။ "တေဒဂ်"ဂုဏ်ထူးဆောင် ဓမ္မကထိက အကျော်အမော်။

နန်းတော်မှာ အိမ်တော်မှာ သည်အတိုင်းကျန်ရစ်နေသူများကတော့ ဗိမ္ဗိသာရ မင်းနှင့် ဝိသာခသူဌေး။

ဘဝအကျိုးပေးခြင်း တူနိုင်လွန်းသော ထိုပုဂ္ဂိုလ်နှစ်ဦးသည် ရင်းနှီးခင်မင် အကျွမ်းဝင်သူများလည်း ဖြစ်ကြ၏။ သာသနာ့ အသိ အမြင် စတင်ရရှိခြင်းမှာလည်း တစ်ချိန်တည်းမှာပင် ဖြစ်ကြပေသည်။

အနော်မာသောင်ကမ်း၌ ရဟန်းအဖြစ် ခံယူပြီးလျှင် အလောင်းတော်သည် ရာဇဂြိုဟ်တွင်းသို့ ဆွမ်းခံဝင်ခဲ့၏။ ထိုစဉ်တွင် ထီးမွေနန်းမွေ ဆက်ခံရရှိပြီးခါစ ဗိမ္ဗိသာရမင်းနှင့် တွေ့ဆုံခဲ့၏။ ဗိမ္ဗိသာရမင်းက ပေးလှူသော လောကီစည်းစိမ်များကို ပယ်လှန်ကာ တောင်းပန်မှုတစ်ခုကိုကား လက်ခံခဲ့၏။ ရည်မှန်းချက် ပန်းတိုင်

အရောက် ခရီးပေါက်ပြီးလျှင် သည်မြို့သည်ပြည်သို့ ပထမဦးစွာ ကြွတော်မူပါ ဟူသော တောင်းပန်မှုပင် ဖြစ်၏။

သည်တောင်းပန်မှုအရ ဘုရားရှင်သည် ပထမဦးစွာ ရာဇဂြိုဟ်ပြည်သို့ ကြွတော်မူခဲ့၏။ မိမိအပေါ် သွေးရင်းသားရင်းတမျှ ချစ်ခင်ကြည်ညိုလှသော မဂဓဘုရင်အား သစ္စာဉာဏ်မြင် နိဗ္ဗာန်ဝင် တရားတော်များဖြင့် အတုံ့အလှယ် မေတ္တာလက်ဆောင် ပေးတော်မူခဲ့၏။

ရှင်တော်မြတ်၏ ကမ်းလင့်လာသောလက်ကို ထိုနေ့က အရအမိ ဆုပ်ကိုင် ဖမ်းမိသူများတွင် သည်သူငယ်ချင်းနှစ်ဦးလည်း အပါအဝင်ဖြစ်ပေသည်။

အပူအဆွေး ဘေးအန္တရာယ်ဟူသမျှ၏ ကင်းလွတ်ရာ အမြိုက်ချမ်းသာကို ပေးသနားတော်မူခဲ့သော ကျေးဇူးရှင်ကြီးအပေါ် ဆထက်ထမ်းပိုးတို့၍ ကြည်ညိုလာကြ၏။ ကြားရ နာရပြီးသော တရားကို ထပ်ကာထပ်ကာ ကြားနာ၍ မဝနိုင်အောင် ဖြစ်ကြရ၏။ ဖူးရ မြော်ရပြီးသော ရွှေမျက်နှာတော်ကို ဖူးမြော်၍ အားမရနိုင်အောင် ဖြစ်ကြ၏။

ကြားနာ၍မဝ၊ ဖူးမြော်၍အားမရနိုင်သော စိတ်ဖြင့် သူတို့နှစ်ဦး ကျောင်းတော်သို့ ရောက်လာကြသည်ကား မှန်ပါ၏။ သူတို့ နောက်ပါးတွင်ကား သူတို့ ချစ်မြတ်နိုးသူများက မပါလာကြချေတကား။

မပါချင်တုန်းက ဇွတ်ပေ၍နေခဲ့သော မယ်ခေမာသည် ပါမည့်ပါတော့လည်း သူတို့ထက်ပင် ကျော်လွန်၍ သွားပေပြီ။ သည်အချိန်တွင်သူဌေးကတော်လေး ဓမ္မဒိန္နာကား သူ၏ ခန်းသဋ္ဌာတွင် အလုပ်ပြုပြင်တန်ဆာဆင်၍ ကောင်းနေဆဲသာ ဖြစ်ပေသည်။

မယ်ခေမာကဲ့သို့ပင် ဓမ္မဒိန္နာသည်လည်းကျောင်းတိုက်သို့ လိုက်ပါတတ်သူ မဟုတ်ပေ။ သို့ပါလျက် ဝိသာခသည် သူ့ဇနီးကို အပြစ်မယူချစ်ကြည်ဖြူသည်သာ ဖြစ်၏။ လောကအမြင်နှင့် ရှုဆင်ခြင်လျှင် ချစ်ထိုက်၍ ချစ်သည်။ ကြည်ဖြူထိုက်၍ ကြည်ဖြူသည် ဟူ၍ပင် ဆိုရပါတော့မည်။

ဘုရားကျောင်းတော်က ဝိသာခ ပြန်လာလျှင် အရန်သင့်ပွင့်လျက်ရှိနေသော လေသာပြတင်းကို တွေ့ရမြဲဖြစ်၏။ ထိုပြတင်း၌ မိမိအလာကို ကြိုဆိုနေသော အပြုံးမျက်နှာ။

ပြုံးမြမြ မျက်နှာသည် မကြာမီ ထိုပြတင်းမှကွယ်ပျောက်ကာ လှေကားဦးမှာ ပေါ်လာပြန်၏။ ပြုံးမြမြမျက်နှာမှချိုသာသော နှုတ်ခွန်းဆက်သံများ ထွက်ပေါ်လာ၏။ အမွှေးနံ့သာ လိမ်းခြယ်ထားသော လက်ယာလက်သည် ဆွဲကိုင်လှမ်းတက်ရန် ကမ်းလင့်မြဲ ဖြစ်၏။

ခါတိုင်း ခါတိုင်းနေ့များ၌ ဝိသာခသူဌေးသည် ထိုလက်နှစ်သွယ်ကို ဆွဲကိုင်မွေ့ယမ်းလျက် လှေကားပေါ် လှမ်းတက်နေကျ ဖြစ်၏။ ချိုသာသော နှုတ်ခွန်းဆက်စကားများကို အတုံ့အလှယ် ရယ်မောပြောဆိုနေကျဖြစ်၏။ ကျောင်းတော်သွားရစဉ်က မအီမသာ ဟာတာတာဖြစ်ခဲ့ပုံ၊ အိမ်ပြန်ရောက်၍ ပြုံးမျက်နှာကို မြင်လိုက်ရခါမှ ရွှင်ပျပျဖြစ်လာပုံများကို ဝိသာခ၏ ကျောင်းတော်ပြန် လက်ဆောင်စကားများ ဖြစ်ပေသည်။ တရားစကား နားမဝင်သူကလေးကို သူနှင့်သင့်တော်ရာ စကားတို့ဖြင့် အလိုက်အထိုက် ပြောဆိုဆက်ဆံရခြင်း ဖြစ်ပေသည်။

သည်နေ့မှာတော့ ဝိသာခ၏ နှုတ်ဖျားမှ ဤလို စကားကလေးများ ထွက်ကျ မလာကြတော့ပြီ။ ကမ်းလင့်ထားသော လက်ကို ဆွဲကိုင်မွေ့ယမ်းခြင်း မပြုတော့ပြီ။ မြတ်နိုးပျူငှာ ကြိုဆိုလာသော ဇနီးသည်ကိုမှ အပြုံးလက်ဆောင် မတုံ့ပြန်တော့ပြီ။ အေးချမ်းသော မျက်နှာထား၊ တည်ငြိမ်သော ဣန္ဒြေဖြင့် သူ့ဘာသာ အိမ်ပေါ်တက်လာ၏။ ထူးခြားသော အမူအရာများကြောင့် ဓမ္မဒိန္နာ တအံ့တသြဖြစ်ရ၏။ ယှက်ကျုံးမရ ဝမ်းနည်းလှသော 'လှစိမ်းကားကြီး' ကို စူးစူးစိုက်စိုက် ကြည့်နေမိ၏။

ဓမ္မဒိန္နာ၏ မျက်စိထဲဝယ် ဝိသာခ၏ ရုပ်သွင်သည် ထင်ထင်ရှားရှား ရှိနေပါ၏။ အသွေးအသားနှင့် တည်ဆောက်ထားသော ကိုယ်ခန္ဓာတွင် ဘာတစ်ခုမျှ ပြောင်းလဲမသွားပါ။ ဘာတစ်ခုမျှ ယုတ်လျော့မသွားပါ။ ယခင် ယခင်က သူနှင့် ချစ်ခွန်းတုံ့တင် ပြောကြားလာခဲ့သော ရုပ်သွင်အတိုင်းသာရှိနေပါ၏။

တကယ်တော့ဖြင့် ဝိသာခထံတွင် ဓမ္မဒိန္နာ မမြင်သာသော ယုတ်လျော့ခြင်းကား ရှိနေပေပြီ။ သာမန်မျက်စိဖြင့်ကြည့်၍ မမြင်နိုင်သော ပြောင်းလဲမှုကား ရှိနေပေပြီ။ ထိုယုတ်လျော့မှု၊ ထိုပြောင်းလဲမှုကား ရုပ်ခန္ဓာနှင့်မဆိုင်ပေ။ စိတ်ခန္ဓာနှင့်သာ ဆိုင်ပေသည်။ သည်ကနေ့ နံနက်ခင်းက ရှေ့တော်မှောက်မှာ ကြားနာခဲ့ရသော တရားတော်က သူ့စိတ်ခန္ဓာကို အသစ်ပြောင်း၍ ပေးလိုက်ပေပြီ။ ကာမဂုဏ်အာရုံ ခုံမင်မှုမကင်းသော သောတာပန် သကဒါဂါမိအဆင့်မှ အနာဂါမ်အဆင့်သို့ပို့ဆောင်ပေးလိုက်ပေပြီ။ လူ့အဝတ် လူ့အဆင်နှင့် အိမ်ပြန်လာသော ဝိသာခထံတွင် လူတို့၏ အာသာရမ္မက်များ မရှိတော့ပါပြီတည်း။

ဖြစ်ကြောင်းကုန်စင် မသိနိုင်ရှာသေးသော ဓမ္မဒိန္နာသည် ထမင်းစားချိန်မှာလည်း စိတ်မချမ်းမသာ ဖြစ်ရပြန်၏။ ခါတိုင်းဆိုလျှင် ဝိသာခသည် ဇနီးသည်နှင့် မျက်နှာစုံညီ အတူတကွ စားနေကျဖြစ်၏။ သည်နေ့မှာတော့ ဣန္ဒြေကြီးတစ်ခွဲသားနှင့် သူတစ်ဦးတည်းသာ စား၏။ ဇနီးသည်ကို လာပါ စားပါဟူ၍ လောကွတ်စကားလေးများကိုမျှ ဆိုဖော်မရပေ။

ထမင်းဝိုင်းမှာ အကဲခတ်၍ မရနိုင်သေးသော ဓမ္မဒိန္နာသည် ညချမ်းအချိန်ကို စောင့်မျှော်နေမိ၏။ မျှော်တော်ဇောနှင့် မောခဲ့ရသော်လည်း မောရကျိုးကား မနပ်ပါချေ။ အိပ်ရာဝင်ကြသောအခါ ဝိသာခသည် ခန်းသဉ္ဇာသို့ မဝင်လာပေ။ အခြား အခန်းလွတ်တစ်ခုကိုသာ သုတ်သင်ရှင်းလင်းကာ သာမန် သစ်သားခုတင်ဖြင့် အိပ်စက်ပေသည်။

မိန်းမသားတစ်ယောက်၏ အောင့်အည်းနိုင်စွမ်းသည် သည်နေရာမှာ ကုန်ခန်း၍သွားပေပြီ။ ထမင်းစားရာ တိတ်ဆိတ်စွာနေရာတို့တွင် ဝိသာခ အလိုကျ လွတ်ရာကျွတ်ရာက ခွာနေနိုင်ခဲ့သော်လည်း ဤကိစ္စကိုကားသည်းခံ၍ မရတော့ပါ။ သူကြိုက်ချင်ကြိုက်၊ မကြိုက်ချင်နေ၊ သူ့အိပ်ခန်းသို့လိုက်ပါမသွားဘဲ မနေနိုင်တော့ပါ။

"အို... ဓမ္မဒိန္နာ၊ အကာလ ညအခါကြီးမှာ ဘာအကြောင်းနှင့်ဝင်လာရပါသလဲ"

ဓမ္မဒိန္နာဝင်လာသည်နှင့် ဝိသာခသည် လျောင်းစက်ရာမှ ထ၍ မေးလိုက်၏။ စိတ်နောက်ကိုယ်ပါ ဝင်လာခဲ့မိသော ဓမ္မဒိန္နာသည် အိမ်ဦးနတ်အပေါ် ရိုသေကိုင်းညွတ်သူလည်းဖြစ်၍ ခုတင်ခြေရင်းက ဦးချကန်တော့လျက်–

"ဟုတ်ပါသည် အရှင့်သား၊ မကြိုက်မှန်း သိပါလျက် ဖွတ်တရွတ်ဝင်လာခဲ့မိပါသည်။ အရှင့်သားသည် ယခင်နှင့်မတူ တစ်မူထူးခြားလာသောကြောင့် ဖြစ်ပါသည်။ သို့ဖြစ်၍ ရှင်းရှင်းနှင့် ဘွင်းဘွင်းသိရအောင် ကျွန်မ မေးပါရစေ။ အရှင့်သားသည် အခြားသူ တစ်ယောက်ယောက်ကိုများ စိတ်ညွတ်နေပါသလား"

"ဘယ်သူ့ကိုမှ စိတ်ညွတ်မနေပါ ဓမ္မဒိန္နာ"

"သို့ဖြစ်လျှင် တစ်စုံတစ်ယောက်ဆိကများ သွေးခွဲစကားကြားခဲ့ရလေသလား"

"သွေးခွဲစကား မကြားခဲ့ရပါ ဓမ္မဒိန္နာ"

"သည်လိုမဟုတ်လျှင် ကျွန်မမှာကော အပြစ်တစ်ခုခု ရှိနေသရော့သလား"

"အပြစ်ဟူ၍ မြူမျှမရှိပါ ဓမ္မဒိန္နာ"

"အပြစ်ဟူ၍ မြူမျှ မရှိပါလျက် ဘယ့်အတွက်ကြောင့် စကားစမြည် မပြောရပါသလဲအရှင့်သား"

"ခက်လေစွ ဓမ္မဒိန္နာ၊ ခက်လေစွ"

အကြောင်းရင်းမှန် ပြောကြားရန် ဝန်လေးလှသဖြင့် ဝိသာခ ညည်းတွားလိုက်မိ၏။

ဓမ္မဒိန္နာဆိုသော သည်အမျိုးသမီးသည် အလှအပ ခံစားရုံမျှအပ တရားဘက်မှာ နားဝေးလှ၏။ တရားရေး နားဝေးလှသူတစ်ဦးအား သည်ကနေ့ ရရှိခဲ့သော တရားထူးကို မည်သို့များ နားလည်အောင် ပြောပြရပါမည်နည်း။

သို့သော် ဤအခြေအနေရောက်မှတော့ မပြော၍လည်း ပြီးတော့မည် မဟုတ်ပေ။ ရရှိခဲ့သော တရားထူးကို တတ်နိုင်သလောက်နားလည်အောင် ပြောပြပါမှ သူ့ခမျာ ရပ်တည်ရာ ရပေမည်။ သို့ဖြစ်၍-

"ဓမ္မဒိန္နာ၊ နားသောတဆင်လေတော့။ သည်ကနေ့ရရှိခဲ့သော တရားသည် လောကလူသား အများတကာတို့ မက်မောနေကြသော စည်းစိမ်ဥစ္စာ ရတနာတွေထက် မွန်မြတ်သောတရားဖြစ်သည်။ ကာမဂုဏ်ခံစားမှုမပါသော ချမ်းသာသုခ ဖြစ်သည်။ သည်ချမ်းသာသုခကို ကိုယ်တိုင်ကိုယ်ကြပ် ခံစားရပြီမို့ လောကီအာရုံ ကာမဂုဏ်တို့ကို ငါတို့များ မခုံမင်တော့ပြီ။ သို့ဖြစ်၍ သည်အိမ်မှာရှိသမျှ ပစ္စည်းများကို နှမဓမ္မဒိန္နာ တစ်ယောက်တည်းသာ အပိုင်ယူပါ။ ငါတို့၏ အမိ၊ ငါတို့၏ နှမအဖြစ်ဖြင့်သာ ဤအိမ်မှာနေပါ။ နှမ ပေးသမျှ ကျွေးသမျှဖြင့် ငါတို့များ ကျေကျေနပ်နပ် စားသုံးနေပါတော့မည်"

တရားရေး နားဝေးလေမည်လားဟု ဝိသာခက ဤစကားများကို ခပ်ဆဆ ပြောလိုက်ခဲ့ရ၏။ သို့ရာတွင် ဤစကားလုံးများက တိုက်လွှင့်ပေးလိုက်သဖြင့် ဖုံးနေသော ပြာမှုန်များ လွင့်ကျသွားခဲ့ပြီ ဖြစ်၏။ ဓမ္မဒိန္နာမီးကျီခဲသည် ရဲရဲညီးညီး တောက်ပလာခဲ့ပြီ ဖြစ်၏။ ထိုမီးကျီခဲတစ်နေရာတွင် မာနမီးပွားလေး ကပ်ပါနေသည်ကို တွေ့နိုင်ကြပေသည်။

"အရှင့်သား၊ ဤသို့သော ချမ်းသာသုခကို ယောကျာ်းသားများသာ ရနိုင်ပါသလား။ မိန်းမသားများကော ရနိုင်ခွင့် ရှိကြပါသလား"

မီးပွားလေးမှထွက်လာသော အသံများဖြစ်ပေသည်။

"ဘယ့်နှယ်များ ပြောလိုက်ပါသလဲ ဓမ္မဒိန္နာ။ အသိရှေ့သွား တရားကျင့်သူ အားလုံးသည် ဤတရားကိုအမွေဆက်ခံခွင့်ရကြပေသည်။ အခြေခံဉာဏ်ပညာနှင့် ပြည့်ဝသူတိုင်း ရရှိနိုင်သော တရားပင် ဖြစ်ပေသည်"

"သို့ဖြစ်လျှင် ကျွန်မ ရဟန်းပြုပါရစေ"

"ကောင်းလှပြီ နှမ၊ ငါတို့များလည်း ဤလမ်းကိုပင် တိုက်တွန်းချင်သည်။ နှမ၏ သဘောဆန္ဒကို မသိရသေး၍ ခပ်မဆိတ် နေလာခဲ့ရပေသည်"

ဤသို့ဖြင့် ကျွန်ုပ်တို့ သာသနာတော်တွင် ငွေစင်ကြယ်တစ်လုံး ထွန်းသစ်လာပေသည်။

ရဟန်းခံပွဲကျင်းပစဉ်က ရာဇဂြိုဟ်တစ်မြို့လုံး ဟိုးလေးတကျော်ဖြစ်ခဲ့၏။ အခမ်းအနားများပြီးဆုံးသွားသော်လည်း အရှင်မထံမှာ ပရိသတ်များ မစဲသေးပါ။ ဝင်သူထွက်သူ၊ လှူဒါန်းလာသူများ တသဲသဲ တဖွဲဖွဲ ရောက်နေကြဆဲသာ ဖြစ်ပေသည်။

လူ့ဘောင်လောက၏ အနှောင်အဖွဲ့မှ ရုန်းထွက်လာသော အရှင်မအတွက် ဤလာဘ်လာဘများကို သာယာမက်မောစ္ မနေသာပါ။ ဤလာဘ်လာဘထက် အဆတစ်ရာမကသာသော ဆုထူးလာဘ်ထူးကြီးသည်သာ သူ၏ ရည်စူးချက်ဖြစ်၏။ ထို့ကြောင့် ဝင်သူ ထွက်သူ လှူဒါန်းသူ ပေါလှသော ရာဇဂြိုဟ်မြို့တော်ကို ခွာရှောင်ကာ မထင်ရှားသော တောရွာတစ်ရွာသို့ တိမ်းရှောင်သွားရ၏။

ယခုတော့ သူရည်စူးခဲ့သော ဆုထူးလာဘ်ထူးကြီးများကို တစ်ပွေ့တစ်ပိုက် သယ်ဆောင်လျက် ပြန်ရောက်လာပါပြီ။ အရှင်မ ရောက်လာ၍ မကြာမီ သူ၏ ပစ္စည်းလေးပါး ဒါယကာကြီးလည်း ရဟန်းမများကျောင်းသို့ ရောက်လာသည်ဟု သတင်းစကား ကြားသိရပေသည်။

ဓမ္မဒိန္နာအရှင်မ သာသနာ့ဘောင် ဝင်ရောက်လာရပုံကို ဒါယကာ ဝိသာခ ပြောပြချက်အရ ကျွန်ုပ်တို့ ပြည့်ပြည့်စုံစုံ တင်ပြနိုင်ခဲ့၏။ ယခု တစ်ဖန် သူတို့ နှစ်ဦး၏ ဆွေးနွေးခန်းကို ဝိသာခ၏ အထောက်အကူဖြင့်ပင် တင်ပြရပါဦးမည်။ ဤအကြောင်းခြင်းရာများကို ဘုရားရှင်ထံ လာရောက်၍ လျှောက်ထားစဉ်က အပါးတော်တွင် ကျွန်ုပ်တို့ရှိနေကြသည် မဟုတ်ပါလား။

ဝိသာခက "ရဟန်းမများကျောင်းသို့ အဆောတလျင် သွားရောက်ခြင်းမှာ အရှင်မအပေါ် တစ်စုံတစ်ရာ တွယ်တာမှုရှိနေ၍ မဟုတ်ပါ"ဟု လျှောက်ထား၏။ အရှင်မသည်ရဟန်းခံပြီးသည်နှင့် မြို့ကြီးများကိုခွာ၍ တောရွာသို့သွားခဲ့၏။ ယခု ဘာမျှမကြာသေးမီမှာပင် တောရွာမှ မြို့ကြီးသို့ပြန်ကပ်လာခဲ့၏။ ဤအမူအရာထူးကို ထောက်ချင့်လျက် "သာသနာ့ဘောင်မှာ ပျော်မှပျော်ပါမည်လား"ဟု ဒါယကာကြီး စိတ်ထဲမှာ သံသယတစ်ကွက် ဝင်လာမိ၏။

ဤသံသယကို ချေဖျက်ရန် အကောင်းဆုံးသော နည်းလမ်းသည်ကား အရှင်မနှင့် တိုက်ရိုက်တွေ့ဆုံရေးပင် ဖြစ်၏။ လေးနက်သော စကားတို့ကို နှိုက်နှိုက်ချွတ်ချွတ် မေးမြန်းကြည့်ရေးပင် ဖြစ်၏။ တကယ်တမ်းသာ ကိုယ်ပိုင် ဉာဏ်ရောက် အသိပေါက်ခဲ့လျှင် ဤမေးခွန်းများကို ရဲရဲဝံ့ဝံ့ ဖြေနိုင်ပေလိမ့်မည်။ ဤသို့ ဖြေနိုင်၍ သာသနာ့ဘောင်မှာ ပျော်မွေ့ကြောင်းသိရလျှင် ဝမ်းမြောက်ဝမ်းသာ သာဓုခေါ်ရပေမည်။ ရပ်တည်ရာမရသောစိတ်ဖြင့် ပြန်လာပါမူကား ဘုရား ကိုယ်တော်မြတ်ထံ လျှောက်ထားရန်ပင် ရှိတော့သည်။

ဤသို့ ရည်ရွယ်ထားခဲ့သည့်အတိုင်း ဝိသာခသည် အရှင်မ ဓမ္မဒိန္နာနှင့် တွေ့ဆုံလာပါ၏။ အရှင်မနှင့် တွေ့ဆုံပြီးနောက် ဘုရားရှေ့တော်မှောက်မှာ လျှောက်ထားလာပါ၏။ သို့ရာတွင် သူ့အရှင်မ သာသနာ့ဘောင်မှာ မပျော်မွေ့ကြောင်း များ မဟုတ်ပါ။ အရှင်မ ဓမ္မဒိန္နာထံတွင် သူမေးလျှောက်ခဲ့သော ပြဿနာများပင်

ဖြစ်ပေသည်။ တရားဘက်တွင် ကျေကျေညက်ညက် အလေ့အကျက်ရှိထားသူတို့မှ လွဲ၍ သာမန်သိယောင်ကားတို့ မဖြေကြားနိုင်သော ဖြေကြားချက်များပင် ဖြစ်ပေသည်။ ထိုအမေးအဖြေကား–

"အရှင်မ၊ အဘယ်တရားသည် သုခဝေဒနာနှင့် တူညီပါသနည်း"

"ဒါယကာ ဝိသာခ၊ သုခဝေဒနာနှင့် တူညီသောတရားသည် ဒုက္ခဝေဒနာ ဖြစ်ပေသည်"

"အရှင်မ၊ အဘယ်တရားသည် ဒုက္ခဝေဒနာနှင့် တူညီပါသနည်း"

"ဒါယကာဝိသာခ၊ ဒုက္ခဝေဒနာနှင့် တူညီသောတရားသည် သုခဝေဒနာ ဖြစ်ပေသည်။

သုခသည် ဒုက္ခ၏ ဆန့်ကျင်ဘက်ဖြစ်၏။ ထို့အတူပင် ဒုက္ခသည်လည်း သုခ၏ ဆန့်ကျင်ဘက်ဖြစ်၏။ ဆန့်ကျင်ဘက်ဖြစ်ပုံချင်း တူညီ၍ တစ်နည်းအားဖြင့် သိလွယ် မြင်လွယ်ပုံချင်း တူညီပုံကို ဖြေကြားခြင်းဖြစ်ပေသည်။

"အရှင်မ အဘယ်တရားများသည် ဥပေက္ခာဝေဒနာနှင့် တူညီပါသနည်း"

"ဒါယကာ ဝိသာခ၊ ဥပေက္ခာဝေဒနာနှင့်တူညီသော တရားသည် အဝိဇ္ဇာ ဖြစ်ပေသည်"

ပေါ်လွင်ထင်ရှားခြင်း မရှိ၊ သိရခက်၊ မြင်ရခက်ပုံချင်း တူညီပုံကို ဖြေကြားခြင်း ဖြစ်ပေသည်။

"အရှင်မ၊ အဘယ်တရားသည် အဝိဇ္ဇာနှင့် တူပါသနည်း"

"ဒါယကာ ဝိသာခ၊ အဝိဇ္ဇာနှင့်တူညီသော တရားသည် ဝိဇ္ဇာဖြစ်ပေသည်"

အဝိဇ္ဇာက မှောင်ချ၍ ထားလေသမျှတွင် ဝိဇ္ဇာက ထိုမှောင်ကို ပယ်ဖျက်တတ်သောကြောင့် ထပ်တူပြုလိုက်ခြင်း ဖြစ်ပေသည်။

"အရှင်မ အဘယ်တရားသည် ဝိဇ္ဇာနှင့်တူပါသနည်း"

"ဒါယကာ ဝိသာခ၊ ဝိဇ္ဇာနှင့်တူသော တရားသည် ဖိုလ်လေးပါး ဖြစ်ပေသည်"

ဤနေရာ၌ ဝိဇ္ဇာမှာ သမ္မာဒိဋ္ဌိမဂ္ဂင်ပင် ဖြစ်၏။ သို့ဖြစ်၍ လောကုတ္တရာ တရားချင်း တူညီပုံကို ဖြေကြားခြင်း ဖြစ်ပေသည်။

"အရှင်မ၊ အဘယ်တရားသည် ဝိမုတ္တိနှင့် တူပါသနည်း"

"ဒါယကာ ဝိသာခ၊ ဝိမုတ္တိနှင့် တူညီသော တရားသည် နိဗ္ဗာန်တရားဖြစ်ပေသည်။

အာသဝနှင့် မဆက်ဆံခြင်း၊ လောကုတ္တရာတရားများဖြစ်ခြင်း၊ အဗျာကတ တရားချည်းဖြစ်ခြင်း ဤသုံးချက်လုံး တူညီနေသော တရားများ ဖြစ်ပေသည်။

မေးလေသမျှ ပြဿနာတို့ကို အရှင်မ ဓမ္မဒိန္နာက ရဲဝံ့ပြတ်သားစွာဖြေဆိုပေသည်။ မေးမြန်းသည့်ဒါယကာ ဝိသာခကလည်း အားပါးတရ ကြားနာကာ နောက်ဆုံးမှာ အရေးပါဆုံးသော မေးခွန်းကို မေးလျှောက်လိုက်၏။

"အရှင်မ၊ အဘယ်တရားသည် နိဗ္ဗာန်နှင့် တူညီပါသနည်း"

"ဒါယကာ ဝိသာခ၊ သင့်မေးခွန်းများ နယ်ကျွံသွားကြပေပြီ။ အတူမရှိသော နိဗ္ဗာန်တရားကို အတူရှာ၍ ဖြေနေရလျှင် ဆုံးနိုင်တော့မည် မဟုတ်ချေ။

"ဒါယကာ ဝိသာခ၊ ဘုရားရှင်တို့၏ အဆုံးအမ သာသနာတော် တစ်ခုလုံးသည် နိဗ္ဗာန်မှာ အကျုံးဝင်၏။ နိဗ္ဗာန်သာလျှင် လားရာရှိ၏။ နိဗ္ဗာန်မှာပင် လမ်းဆုံး၏။ ထို့ကြောင့် နိဗ္ဗာန်နှင့်တူညီသော တရားကို မဖြေကြားနိုင်တော့ပါ။ ဤမျှဖြင့် မကျေနပ်နိုင်သေးလျှင် ဘုရားရှင်ထံ ချဉ်းကပ်ပါလော့။ ဘုရားရှင် ဖြေကြားတော်မူသည့်အတိုင်းသာ မှတ်ယူပါလော့"

အဖြေပေးစရာ အတူရှာ၍ မရတော့သည့်အဆုံးတွင် အရှင်မ ဓမ္မဒိန္နာက ဤပြဿနာကို ဘုရားရှင်ထံ လွှဲအပ်လိုက်ရတော့၏။ ဝိသာခမှ တစ်ဆင့် အရှင်မ ဓမ္မဒိန္နာ လွှဲအပ်လာသော ပြဿနာကို ဘုရားရှင်ကလည်း အရှင်မထံသို့ပင် ပြန်၍ လွှဲအပ်တော်မူလိုက်ပေသည်။

"ဝိသာခ၊ ဓမ္မဒိန္နာသည် ပညာကြီးပေစွ။ အကယ်၍ ဤပြဿနာတို့ကို ငါဘုရားထံ မေးမြန်းပါလျှင်လည်း ဓမ္မဒိန္နာ ဖြေကြားခဲ့သည့်အတိုင်းပင် ဖြေကြားရပေလိမ့်မည်။ ထိုပြဿနာတို့ အဖြေကို ဓမ္မဒိန္နာ ဖြေဆိုခဲ့သည့်အတိုင်းသာလျှင် စိတ်ချ လက်ချ မှတ်ယူပါလော့"

တပည့်မတစ်ဦး၏ သာဝကဉာဏ်ဖြင့် ဖြေကြားချက်ကို ဘုရားရှင်က မိမိနှင့် ထပ်တူ ပြုလိုက်ပါလေပြီ။

ဟိုစဉ်တုန်းက ဓမ္မဒိန္နာသည် "ဤသို့သော လောကုတ္တရာတရားကို သူတို့ယောကျ်ားများသာ ရနိုင်သလော"ဟု မာနမီးပွားလေး ထွက်ခဲ့ရ၏။ ထိုမီးပွားလေး၏ တွန်းကန်မှုဖြင့် နေ့ချင်း ညချင်းရဟန်းပြုခဲ့၏။ အသိထူး အမြင်ထူး မရမနေ ရှာဖွေလာခဲ့၏။ ရှာဖွေသည့်အတိုင်းပင် မကြာမီ ရရှိလာခဲ့၏။ ထိုအသိထူး အမြင်ထူး၏ ကျေးဇူးဖြင့် နှိုက်နှိုက်ချွတ်ချွတ် မေးလာသမျှကို ဂဏာသေချာစွာ ဖြေဆိုနိုင်ခဲ့၏။

အမှန်အားဖြင့် မာနဟူသည် အကုသိုလ်စေတသိက် တစ်လုံးမျှသာဖြစ်၏။ ကာယကံရှင်၏ စိတ်နှလုံးကို ပူပန်စေတတ်သော သဘောကြောင့် မီးဟူ၍ တင်စားကြရ၏။ သို့သော် ထိုမီးကို အထိန်းအချုပ်ဖြင့် နည်းမှန်လမ်းမှန်အသုံးပြုလိုက်သောအခါ ရွှေနှုတ်တော်မှ ထုတ်ဖော်ချီးကျူးမှုကို ခံယူရပေသည်။

ဤသို့ထုတ်ဖော်ချီးကျူးကာ မိမိနှင့် ထပ်တူထပ်မျှ ပြုတော်မူလိုက်သဖြင့် အရှင်မ ဓမ္မဒိန္နာ၏ ဖြေကြားချက်သည် သာဝကဘာသိတ အဆင့်ထက် ကျော်လွန်ကာ ဗုဒ္ဓဘာသိတ စာရင်းဝင် ဖြစ်သွားတော့၏။

မင်းမှုထမ်းတို့ ရေးသားသော စာလွှာတွင် ဘုရင့်တံဆိပ် ခတ်နှိပ်လိုက်သော အခါ ပြည်ထောင်ချင်းချင်း ဘုရင်မင်းတို့ ပေးရိုးစဉ်လာ သဝဏ်လွှာ ဖြစ်လာသကဲ့သို့ ပင်တည်း။

(မူလပဏ္ဏာသ၊ စူဠဝေဒလ္လသုတ်ပါဠိတော်နှင့် အဋ္ဌကထာ)

※※

## ဘုရားပေးသော မသေဆေး

အရှင်မ ခေမာ၊ အရှင်မဥပ္ပလဝဏ်၊ အရှင်မ ဓမ္မဒိန္နာ ဤထေရီသုံးပါးတို့သည် ဘဝအကျိုးပေးကောင်းသူများ ဖြစ်ကြ၏။ သဲဖြူခင်း၍ ရာဇမတ်ကာထားသော မင်းလမ်းတစ်လျှောက်တွင် တံခွန် ကုက္ကား မုလေးပွားတဝေဝေဖြင့် ကျောင်းတော်သို့ လာခဲ့ကြရ၏။ လာခြင်းကောင်းသော ရှင်တော်မြတ် ခြေရင်းသို့ ရွှေဝေါကြီးများစီး၍ ဝင်ရောက်ခဲ့ကြရ၏။

သို့ရာတွင် ကျွန်ုပ်တို့ သာသနာတော်ကြီးသည်ကား ဤလို တခမ်းတနား ဝင်လာသူများကိုသာ ကြိုဆိုသည် မဟုတ်ပါ။ အခမ်းအနားကို အသာထား။ လိုက်ပို့သူ နှုတ်ဆက်လာသူပင်မရှိသော အထီးကျန် အမျိုးသမီးများကိုလည်း နားခိုခွင့် ပေးခဲ့ပါ၏။

ပျော်တပြုံးပြုံးနှင့် ဝင်လာသူများကို ဝမ်းမြောက်ဝမ်းသာ မုဒိတာ ပွားကြရသကဲ့သို့ပင် မျက်ရည်စက်လက်နှင့် ရောက်လာကြသူများကိုလည်း ကရုဏာဗြဟ္မစိုရ်ဖြင့် ကြိုဆိုလက်ခံကြရပေသည်။

လူ့လောက မဟာသမုဒ္ဒရာဝယ် လောကဓံလှိုင်းများက တစ်လုံးပြီးတစ်လုံး ရိုက်ပုတ်လာကြသဖြင့် သူတို့ခမျာ ခြေကုန်လက်ပန်း ကျနေကြ၏။ ဘယ်နေရာမှ ထောက်ရာတည်ရာ ရှာမရခဲ့၍ အမောဆို့နေကြရ၏။ သူတို့ တွေ့ကြုံရသော လောကဓံတို့သည် သူတို့၏ ခံနိုင်ရည်စွမ်းအား ဟူသမျှကို အကုန်အစင် ဝါးမြိုပစ်လိုက်ကြပြီ ဖြစ်၏။ သည့်ထက်အနည်းငယ်မျှ တိုးလိုက်လျှင် စုံးစုံးမြုပ်ဖို့သာ ရှိတော့၏။ ဤသို့သောအခြေအနေတွင် လှိုင်းအသင့် လေအသင့် အခွင့်ကလေး ကြုံလာသဖြင့် ကျွန်ုပ်တို့ရှိရာ ကျွန်းသာယာသို့ ဆိုက်ရောက်လာကြပေသည်။

ကျွန်းသာယာသည် ထိုဒုက္ခသည် အမျိုးသမီးတို့အား ထောက်ရာတည်ရာကို ပေးခဲ့၏။ အမောကို ပြေစေခဲ့၏။ အပူကို ငြိမ်းစေခဲ့၏။ ဆာလောင်မွတ်သိပ်မှု ဟူသမျှကို ပြေပျောက်ပေးခဲ့၏။

